Form (3)

P000019

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

Permit No. 115/2018 Dated 28 September 2018

This Permit is issued by the Myanmar Investment Commission according to the section 25, sub-section (c) of the Myanmar Investment Law:-

(1) Name of Investor MR. KUNG FANG DAVID

(2) Citizenship CHINESE

(3) Residence Address FLAT C, 2-3/F, LA NOBELESSE, 34-36 OXFORD ROAD, KOWLOON TONG, KOWLOON, HONG KONG

(4) Name and Address of Principle Organization JOLLY ALLIANCE INTERNATIONAL LIMITED, 8/F , LIVEN HOUSE, 61-63 KING YIP STREET, KWAN TONG, KOWLOON, HONG KONG

(5) Place of Incorporation BRITISH VIRGIN ISLANDS

(6) Type of Business MANUFACTURING AND SALES OF WET PULP BOARDS AND BAMBOO PULP BOARDS

(7) Place(s) at which investment is permitted PAPER MILL (YENI), YEDASHE TOWNSHIP, TAUNGOO DISTRICT, BAGO REGION

(8) Amount of Foreign Capital US$ 106.865 MILLION

(9) Period for Foreign Capital to be brought in WITHIN THREE YEARS FROM THE DATE OF ISSUANCE OF MIC PERMIT

(10) Total amount of capital (Kyat) EQUIVALENT IN KYAT OF US$ 133.490 MILLION (INCLUDING US$ 106.865 MILLION)

(11) Construction Period 3 YEARS

(12) Validity of investment permit 25 YEARS

(13) Form of investment JOINT VENTURE

(14) Name of Company incorporated in Myanmar BEST ETERNITY RECYCLE PULP AND PAPER COMPANY LIMITED

(Thaung Tun)

Chariman

ပုံစံ (၃)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၁၅/၂၀၁၈ ၂၀၁၈ ခုနှစ် ၊ စက်တင်ဘာလ 28 ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည် MR. KUNG FANG DAVID

(၂) နိုင်ငံသား CHINESE

(၃) နေရပ်လိပ်စာ FLAT C, 2-3/F, LA NOBELESSE, 34-36 OXFORD ROAD, KOWLOON TONG, KOWLOON, HONG KONG

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ JOLLY ALLIANCE INTERNATIONAL LIMITED, 8/F , LIVEN HOUSE, 61-63 KING YIP STREET, KWAN TONG, KOWLOON, HONG KONG

(၅) ဖွဲ့စည်းရာအရပ် BRITISH VIRGIN ISLANDS

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) စက္ကူစက်ရုံ(ရေနီ)၊ ရေတာရှည်မြို့နယ်၊ တောင်ငူခရိုင်၊ ပဲခူးတိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ အမေရိကန်ဒေါ်လာ ၁၀၆.၈၆၅ သန်း

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ခွင့်ပြုမိန့်ရရှိပြီးနေ့မှ ၃ နှစ် အတွင်း

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၁၃၃.၄၉၀ သန်းနှင့်ညီမျှသော မြန်မာကျပ်ငွေ (အမေရိကန်ဒေါ်လာ ၁၀၆.၈၆၅ သန်းအပါအဝင်)

(၁၁) တည်ဆောက်မှုကာလ ၃ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၂၅ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် BEST ETERNITY RECYCLE PULP AND PAPER COMPANY LIMITED

Thaung Tun

(သောင်းထွန်း)
ဥက္ကဋ္ဌ

THE REPUBLIC OF THE UNION OF MYANMAR
**MYANMAR INVESTMENT COMMISSION**

No.1, Thitsar Road, Yankin Township, Yangon

Tel: 01- 658128
Fax: 01-658141

Our ref :MIC-3/P-026/2018( 178 )
Dated : 28 September 2018

Subject: **Decision of the Myanmar Investment Commission on the Permit for manufacturing and sales of wet pulp boards and bamboo pulp boards under the name of Best Eternity Recycle Pulp and Paper Company Limited**

Reference: Best Eternity Recycle Pulp and Paper Company Limited's letter dated 31st July 2018

1. The Myanmar Investment Commission, at its meeting (16/2018) held on 28th September 2018, approved the permit for investment in manufacturing and sales of wet pulp boards and bamboo pulp boards under the name of Best Eternity Recycle Pulp and Paper Company Limited submitted as a joint venture between Jolly Alliance International Limited (80%) from British Virgin Islands and Lat War Company Limited (20%) from the Republic of the Union of Myanmar in accordance with the Myanmar Investment Law and Rules.

2. The terms and conditions of the Permit are stated in the following paragraphs:

(a) The term of the Permitted project shall be twenty-five (25) years and extendable five (5) years in two (2) times commencing from the date of the issuance of the permit by the Myanmar Investment Commission.

(b) The term of the Sub-Lease Agreement for land and buildings shall be initial twenty-five (25) years commencing from the date of signing of the Sub-Lease Agreement between Lat War Company Limited (Lessor) and Best Eternity Recycle Pulp and Paper Company Limited (Lessee) and extendable for two (2) times for five (5) years by mutual agreement between the Lessor and the Lessee subject to the approval of the Myanmar Investment Commission.

(c) The annual rent for land and buildings shall be Kyat 950.00 million (Kyat nine hundred and fifty million only) for the total

area measuring 542,279.240 square metres (134.00 acres) out of 2047.967 acres.

(d) Best Eternity Recycle Pulp and Paper Company Limited, which has obtained this permit to receive benefits relating to the right to use exemptions and reliefs under sections 75, 77 and 78 of the Chapter XVIII of Myanmar Investment Law, may submit the application form.

(e) Best Eternity Recycle Pulp and Paper Company Limited shall use its best efforts to achieve a timely realization of the work stated in the permit application.

(f) Best Eternity Recycle Pulp and Paper Company Limited shall obey and respect the responsibilities of investors under section 65 of Myanmar Investment Law and Chapter XX of Myanmar Investment Rules.

(g) Best Eternity Recycle Pulp and Paper Company Limited shall carry out prevention, mitigation and monitoring of significant environmental impacts according to the type of investment activities in accordance with the relevant laws, rules, regulations and procedures.

(h) Best Eternity Recycle Pulp and Paper Company Limited shall submit to the Commission of any transfer of shares or transfer of the business to any person during the investment period in accordance with section 72 of Myanmar Investment Law and rule 191 of Myanmar Investment Rules.

(i) If Best Eternity Recycle Pulp and Paper Company Limited which has benefitted from the permit or exemptions and reliefs shall submit an annual report in the prescribed form to the Commission within three (3) months of the end of the financial year in accordance with rule 196 of Myanmar Investment Rules and shall publish a summary of report on its website or the Commission's website.

(j) Best Eternity Recycle Pulp and Paper Company Limited must, during the operation period under the permit of the Commission,

submit its operating report quarterly in the prescribed form in accordance with rule 197 of Myanmar Investment Rules.

3. Best Eternity Recycle Pulp and Paper Company Limited shall submit five (5) copies of all approvals, licences, permits and similar authorizations relevant to the initial implementation of the investment, Joint Venture Agreement and Sub-Lease Agreement to the Commission.

(Thaung Tun)
Chairman

**Best Eternity Recycle Pulp and Paper Company Limited**

cc:
1. Ministry of Home Affairs
2. Ministry of Office of the Union Government
3. Ministry of Natural Resources and Environmental Conservation
4. Ministry of Labour, Immigration and Population
5. Ministry of Industry
6. Ministry of Commerce
7. Ministry of Planning and Finance
8. Bago Region Investment Committee
9. Office of the Bago Region Government
10. Director General, Department of Environmental Conservation
11. Director General, Directorate of Labour
12. Director General, Department of Immigration
13. Director General, Directorate of Industrial Supervision and Inspection
14. Director General, Department of Trade
15. Director General, Directorate of Investment and Company Administration
16. Director General, National Archives Department
17. Director General, Customs Department
18. Director General, Internal Revenue Department
19. Managing Director, No. 3 Heavy Industry Enterprise
20. Bago Region Office, Directorate of Investment and Company Administration

ရက်စွဲ။ ၂၄-၉-၂၀၁၈

**Best Eternity Recycle Pulp and Paper Company Limited နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း**

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | ၃၁-၇-၂၀၁၈ | | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၇-၈-၂၀၁၈ | ၂၄-၈-၂၀၁၈ | |
| | စက်မှုဝန်ကြီးဌာနသို့ အချက်အလက်များ တောင်းခံခြင်း | ၇-၈-၂၀၁၈ | ၂၄-၉-၂၀၁၈ | |
| ၃ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၄-၉-၂၀၁၈ | | |
| ၄ | ကုမ္ပဏီသို့ လက်ခံကြောင်း ပြန်ကြားခြင်း | ၂၅-၉-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၂၈-၉-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၅၆) ရက် | | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Best Eternity Recycle Pulp and Paper Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Best Eternity Recycle Pulp and Paper Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Kung Fang David (Chinese) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Jolly Alliance International Limited (British Virgin Islands) 80 % |
| | | - Lat War Company Limited (Myanmar) 20 % |
| | လုပ်ငန်းအမျိုးအစား | - စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - စက္ကူစက်ရုံ(ရေနီ)၊ ရေနီမြို့၊ ရေတာရှည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန |
| | မြေနှင့်အဆောက်အအုံ အကျယ်အဝန်း | - ၂၀၄၇.၉၆၇ ဧက အနက်မှ ၁၃၄.၀၀ ဧက (၅၄၂,၂၇၉.၂၄၀ စတုရန်းမီတာ) |
| | နှစ်စဉ်မြေ/အဆောက်အအုံ ငှားရမ်းခ | - ကျပ် ၉၅၀,၀၀၀,၀၀၀ |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ကနဦး ၃၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ကနဦး ၂၅ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၃ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၁၃၃.၄၉၀ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **US$ (သန်း)** |

| | နိုင်ငံခြား | မြန်မာ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁၁.၇၆၂ | ၀.၃၆၄ | ၁၂.၁၂၆ |
| စက်ပစ္စည်း (ပြည်ပ) | ၈၆.၇၂၁ | - | ၈၆.၇၂၁ |
| ရုံးသုံးပရိဘောဂ(ပြည်တွင်း) | - | ၀.၈၆၉ | ၀.၈၆၉ |
| Electric Power Supply | - | ၂၂.၃၀၉ | ၂၂.၃၀၉ |
| မော်တော်ယာဉ် (ပြည်တွင်း) | - | ၀.၂၁၃ | ၀.၂၁၃ |
| မော်တော်ယာဉ် (ပြည်ပ) | - | ၀.၁၃၂ | ၀.၁၃၂ |

| | | |
|---|---|---|
| | ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်း(ပြည်ပ/ပြည်တွင်း) | ၈.၃၈၂ ၂.၇၃၈ ၁၁.၁၂၀ |
| | **စုစုပေါင်း** | **၁၀၆.၈၆၅ ၂၆.၆၂၅ ၁၃၃.၄၉၀** |
| | | စုစုပေါင်းမတည်ငွေရင်းပမာဏ US$ ၁၃၃.၄၉၀ သန်းတွင် ချေးငွေ US$ ၆၇.၉၄၉ သန်းအပါအဝင်ဖြစ်ပါသည်။ |
| ၇။ | ရောင်းချမည့်နည်းစနစ် | - Wet Pulp ပြည်တွင်းရောင်း ၁၀ % ၊ ပြည်ပပို့ ၉၀ %<br>- Bamboo Pulp ပြည်ပပို့ ၁၀၀ % |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | **ထုတ်လုပ်မှု (Ton)** **ရောင်းဈေးနှုန်း (US$/Ton)** |
| | Wet Pulp (Year-1) ပြည်ပ ၉၀% | ၃၆၇,၂၀၀ ၁၂၇.၁၀၀ |
| | Wet Pulp (Year-1) ပြည်တွင်း ၁၀% | ၄၀,၈၀၀ ၁၂၇.၁၀၀ |
| | Bamboo Pulp (Year 2) ပြည်ပ ၁၀၀% | ၅၂,၈၀၀ ၅၈၀.၀၀၀ |
| ၉။ | အခြားတင်ပြချက် | **ပြည်တွင်း** **ပြည်ပ**<br>**ဝန်ထမ်းဦးရေ** ၈၀၀ ဦး ၈၀ ဦး<br>**အမြင့်ဆုံးလစာ** ကျပ် ၃၉၀,၀၀၀ US$ ၁၅၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၄၉,၀၀၀ US$ ၈၀၀<br>- ပြည်တွင်းဝန်ထမ်း ၈၀၀ ဦးမှာ စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူထားသောဝန်ထမ်းများဖြစ်ပါသည်။<br>- ၁ US$ = ၁,၄၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- Jolly Alliance International Limited ၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်အမှတ်- 1974815 (၂၈-၃-၂၀၁၈) နှင့် ငွေကြေး အထောက်အထားအဖြစ် Hang Seng Bank တွင် ၁၃-၆-၂၀၁၈ ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၁၁၄,၉၅၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- Lat War Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်- ၄၉၈/၁၉၉၉-၂၀၀၀ (၂၈-၇-၁၉၉၉) နှင့် ငွေကြေး |

အထောက်အထားအဖြစ် Myanma Foreign Trade Bank တွင် ၁-၆-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၂၄၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

- **စာချုပ်များအနေဖြင့်** Jolly Alliance International Limited နှင့် Lat War Company Limited တို့အကြား ချုပ်ဆိုမည့် Cooperation Agreement (မူကြမ်း) ၊ Lat War Company Limited နှင့် Best Eternity Recycle Pulp and Paper Company Limited တို့အကြား ချုပ်ဆိုမည့် Sublease Agreement (မူကြမ်း) ၊ Jolly Alliance International Limited နှင့် Best Eternity Recycle Pulp and Paper Company Limited တို့အကြား ချုပ်ဆိုမည့် Loan Agreement (မူကြမ်း) အား တင်ပြထားပါသည်။
- **စက်ရုံတည်ဆောက်မှုအနေဖြင့်** ကုမ္ပဏီမှ မူလစက္ကူစက်ရုံ တစ်ရက်လျှင် တန် ၅၀ ကျ စက်ရုံအား တန် ၆၀ သို့လည်းကောင်း တန် ၈၀ ကျစက်ရုံအား တန် ၁၀၀ သို့လည်းကောင်း အဆင့်မြှင့်တင်၍ ဝါးပျော့ဖတ် တစ်ရက်လျှင် တန် ၁၆၀ ထုတ်လုပ်သွားမည် ဖြစ်ပါသည်။
- ၎င်းအပြင် Recycle Paper Pulp တစ်ရက်လျှင် တန် ၂၄၀၀ ကျ စက်ရုံတစ်ရုံ ထပ်မံတိုးချဲ့တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။
- သက်ဆိုင်ရာလုပ်ငန်းအမျိုးအစားအလိုက် ပြင်ဆင်ချုပ်ဆိုခဲ့သည့် စာချုပ်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| မူလစာချုပ် | (ပ) ကြိမ် ပြင်ဆင်ချက် | (ဒ) ကြိမ် ပြင်ဆင်ချက် | (တ) ကြိမ် ပြင်ဆင်ချက် |
|---|---|---|---|
| ၁-၁၀-၂၀၁၃ | ၈-၁၂-၂၀၁၅ | ဆောင်ရွက်ဆဲ | ဆောင်ရွက်ဆဲ |
| ၂၀၄၇.၉၆၇ ဧက | ၁၀၀ ဧက | ၁၀ ဧက | ၁၃၄ ဧက |
| - | CMP အထည်ချုပ် | နှမ်းရွေး၊ နှမ်းလှော်ခြင်း လုပ်ငန်း | စက္ကူ ပျော့ဖတ် ထုတ်လုပ် ခြင်း |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - **ထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်းများ**အနေဖြင့် Recycle Paper တွင် ပါရှိလာမည့် စက္ကူမဟုတ်သည့် Plastic Tape၊ Metal & Metal Clip များ၊ Fibre အကြွင်းအကျန်များနှင့် သဲပါဝင်သောအနည်များအား ကော်စေး၊ ကွန်ကရစ်အုတ်၊ လောင်စာတောင့်များအဖြစ် ထုတ်လုပ်ပြီး ပြန်လည် အသုံးပြုနိုင်ရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။<br>- **ကုန်ကြမ်းပစ္စည်းများ**အနေဖြင့် Bamboo Pulp အတွက် ဝါးများအား ပြည်တွင်းရှိတောင်သူများထံမှ ဝယ်ယူဆောင်ရွက်မည်ဖြစ်ပါသည်။ Wet Pulp အတွက် စွန့်ပစ်စက္ကူကုန်ကြမ်းများအား အမေရိကန်၊ အင်္ဂလန်နိုင်ငံ၊ ဂျပန်နိုင်ငံ၊ ထိုင်ဝမ်၊ ထိုင်းနိုင်ငံနှင့် ဩစတြေးလျနိုင်ငံတို့မှ တစ်နှစ်လျှင် ၁၉၈,၀၅၈,၂၅၂ Kg တင်သွင်းမည်ဖြစ်ပါသည်။<br>- **စွန့်ပစ်စက္ကူကုန်ကြမ်းတင်သွင်းခွင့်**အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနနှင့် ၁၃-၉-၂၀၁၈ ရက်နေ့တွင် သွားရောက်တွေ့ဆုံ ရှင်းလင်းပြီးဖြစ်ပါသည်။<br>- ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာအား Ever Green Tech Environmental Services and Training Co., Ltd. နှင့် ရေးဆွဲလျက်ရှိကြောင်း တင်ပြထားပါသည်။<br>- စက်ပစ္စည်းများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည်ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2023 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် ပါဝင်ပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၂၆/၂၀၁၈( ၁၇၆ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Best Eternity Recycle Pulp and Paper Company Limited တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ ဟောင်ကောင်ရှိ Lee & Mann Paper Group ၏ ကုမ္ပဏီအခွဲဖြစ်သည့် Jolly Alliance International Limited မှ ၈၀ % နှင့် မြန်မာနိုင်ငံမှ Lat War Company Limited မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Best Eternity Recycle Pulp and Paper Company Limited တည်ထောင်ကာ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် စက္ကူစက်ရုံ(ရေနီ)၊ ရေနီမြို့၊ ရေတာရှည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေဧရိယာ ၂၀၄၇.၉၆၇ ဧကအနက်မှ ၁၃၄.၀၀ ဧက (၅၄၂,၂၇၉.၂၄၀ စတုရန်းမီတာ) တွင် စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနနှင့် Lat War Company Limited တို့အကြားချုပ်ဆိုထားသည့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် တတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ မြေဆိုင်ရာ အထောက်အထားများ၊ ထုတ်လုပ်မှုပစ္စည်းနမူနာဓာတ်ပုံများအား ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၃၂/၂၀၁၃ (၂၈-၁၁-၂၀၁၃) အရ ငှားရမ်းမှုသက်တမ်း ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ခွင့်ပြုထားပါသည်။ တစ်နှစ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ မြေဧရိယာ ၂၀၄၇.၉၆၇ ဧကအနက်မှ ၁၃၄.၀၀ ဧက (၅၄၂,၂၇၉.၂၄၀ စတုရန်းမီတာ) အတွက် ကျပ် ၉၅၀,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၂၅ နှစ်နှင့် ၅ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၃ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ကန့်သတ်**

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၃၃.၄၉၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

US$ (သန်း)

| | နိုင်ငံခြား | မြန်မာ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁၁.၇၆၂ | ၀.၃၆၄ | ၁၂.၁၂၆ |
| စက်ပစ္စည်း (ပြည်ပ) | ၈၆.၇၂၁ | - | ၈၆.၇၂၁ |
| ရုံးသုံးပရိဘောဂ(ပြည်တွင်း) | - | ၀.၈၆၉ | ၀.၈၆၉ |
| Electric Power Supply | - | ၂၂.၃၀၉ | ၂၂.၃၀၉ |
| မော်တော်ယာဉ် (ပြည်တွင်း) | - | ၀.၂၁၃ | ၀.၂၁၃ |
| မော်တော်ယာဉ် (ပြည်ပ) | - | ၀.၁၃၂ | ၀.၁၃၂ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း (ပြည်ပ/ပြည်တွင်း) | ၈.၃၈၂ | ၂.၇၃၈ | ၁၁.၁၂၀ |
| **စုစုပေါင်း** | **၁၀၆.၈၆၅** | **၂၆.၆၂၅** | **၁၃၃.၄၉၀** |

**မှတ်ချက်။** စုစုပေါင်းမတည်ငွေရင်းပမာဏ US$ ၁၃၃.၄၉၀ သန်းတွင် ချေးငွေ US$ ၆၇.၉၄၉ သန်းအပါအဝင်ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၈၀၀ ဦးနှင့် ပြည်ပဝန်ထမ်း ၈၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၉,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃၉၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၈၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော စက္ကူပျော့ဖတ်များအနက် Bamboo Pulp အား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး Wet Pulp အား ပြည်ပသို့ ၉၀% တင်ပို့၍ ပြည်တွင်း၌ ၁၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | | ထုတ်လုပ်မှု (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
|---|---|---|---|
| Wet Pulp (Year-1) | ပြည်ပ ၉၀% | ၃၆၇,၂၀၀ | ၁၂၇.၁၀၀ |
| Wet Pulp (Year-1) | ပြည်တွင်း ၁၀% | ၄၀,၈၀၀ | ၁၂၇.၁၀၀ |
| Bamboo Pulp (Year 2) | ပြည်ပ ၁၀၀% | ၅၂,၈၀၀ | ၅၈၀.၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံးမှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၆၂ နှင့် ၆၃ အရ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာရေးဆွဲဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Jolly Alliance International Limited သည် Hang Seng Bank တွင် ၁၃-၆-၂၀၁၈ ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၁၁၄,၉၅၀,၀၀၀ ရှိကြောင်းနှင့် Lat War Company Limited သည် Myanma Foreign Trade Bank တွင် ၁-၆-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၂၄၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ပျော့ဖတ်ထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေများအား စက္ကူစက်ရုံ (ရေနီ) တွင် တည်ရှိပြီးဖြစ်သည့် ရေဆိုးသန့်စင်စက်ရုံအား အဆင့်မြှင့်တင်ဆောင်ရွက်မည်ဖြစ်ပြီး ရေဆိုးသန့်စင်စက်ရုံအသစ်တစ်ရုံ ထပ်မံတည်ဆောက်၍ စွန့်ပစ်ရေများအား လက်ရှိ COD 400 မှ COD 100 အောက်သို့ လျော့ချသွားမည်ဖြစ်ပြီး အသုံးပြုမည့်ရေကိုလည်း ကောင်းစွာသန့်စင်၍ သန့်စင်ပြီးရေများအားလည်း Close System နည်းပညာဖြင့် ပြန်လည်အသုံးပြုမည်ဖြစ်ပါသဖြင့် ရေအသုံးပြုမှုလည်းအနည်းဆုံးဖြစ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ ပျော့ဖတ်ထုတ်လုပ်မှုလုပ်ငန်းအတွက် Wet Pulp ကုန်ကြမ်းဖြစ်သော Recycle Paper (USA export Code AMIX 3 and/ or UKMIX 3 ) တစ်နှစ် လိုအပ်သည့် တန်ချိန် ၆၀၀,၀၀၀ အား အမေရိကန်နိုင်ငံ (သို့မဟုတ်) အင်္ဂလန်နိုင်ငံမှ လည်းကောင်း၊ Bamboo Pulp ကုန်ကြမ်းဖြစ်သော ဝါးကုန်ကြမ်းများ အဆက်မပြတ်ရရှိနိုင်ရန် တောင်သူအစုအဖွဲ့များအား ဝါးစိုက်ပျိုးရေးနည်းပညာနှင့် စနစ်တကျ ဝါးထုတ်ယူနိုင်ရေး နည်းပညာလွှဲပြောင်းလုပ်ကိုင်၍ လည်းကောင်း စက္ကူပျော့ဖတ်များ ထုတ်လုပ်သွားမည်ဖြစ်ပြီး ထွက်ရှိလာသည့် စက္ကူပျော့ဖတ်များအား ပြည်ပသို့ ၉၀% တင်ပို့မည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀ % ရောင်းချမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ Recycle Paper တွင် ပါရှိလာမည့် စက္ကူမဟုတ်သည့် Plastic Tape များအား ကော်စေ့များအဖြစ်ထုတ်လုပ်ပြီး ပြန်လည်အသုံးပြုနိုင်ရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ Metal & Metal Clip များအား သံလိုက်စနစ်အသုံးပြုရွေးချယ်၍ သံရည်ကျိုလုပ်ငန်းများသို့ သက်သာသောဈေးနှုန်းများဖြင့် ရောင်းချသွားမည်ဖြစ်ကြောင်း၊ နောက်ဆုံးကျန်ရှိမည့် သဲပါဝင်သောအနည်များအား ကွန်ကရစ်အုတ်များ ပြုလုပ်ရာတွင် ထည့်သွင်းအသုံးပြုခြင်းနှင့် စက္ကူပြုလုပ်ရန်

မသင့်တော်သော Fibre အကြွင်းအကျန်များအား Pallet များအဖြစ် လုပ်ဆောင်၍ လောင်စာတောင့်များပြုလုပ်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆ (ဂ) အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဖြစ်ပါသည်။

(ဃ) ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၂/၂၀၁၃ (၂၈-၁၁-၂၀၁၃) မှ စက္ကူစက်ရုံ(ရေနီ)အား Lat War Company Limited သို့ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ငှားရမ်းခွင့်ပြုချက်အရ မြေနေရာ ၂၀၄၇.၉၆၇ ကေ အကျယ်ရှိသည့် စက္ကူစက်ရုံ (ရေနီ) မြေ၊ အဆောက်အဦ နှင့် စက်ပစ္စည်းများ ငှားရမ်းသည့် သဘောတူစာချုပ်အား ၁-၁၀-၂၀၁၃ ရက်နေ့တွင် ချုပ်ဆိုခဲ့ပါသည်။

(င) စက္ကူစက်ရုံ (ရေနီ) မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် ပထမအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား Lat War Company Limited မှ ဖက်စပ်ကုမ္ပဏီထူထောင်၍ စက်ရုံပြင်ပ မြေနေရာ ၂၀၄၇.၉၆၇ ကေအနက် ၁၀၀ ကေတွင် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် အတွက် ၈-၁၂-၂၀၁၅ ရက်နေ့တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုခဲ့ပါသည်။

(စ) စက္ကူစက်ရုံ (ရေနီ) မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား Lat War Company Limited မှ ဖက်စပ်ကုမ္ပဏီထူထောင်၍ စက်ရုံမြေဧရိယာ ၂၀၄၇.၉၆၇ ကေအနက် ၁၀ ကေတွင် နိုင်ငံတကာအဆင့်မီ နှမ်းရွေး၊ နှမ်းလှော်ခြင်း လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ပြင်ဆင်ချုပ်ဆိုခြင်းဖြစ်ပါသည်။

(ဆ) စက္ကူစက်ရုံ (ရေနီ) မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် တတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား Lat

War Company Limited မှ ဖက်စပ်ကုမ္ပဏီထူထောင်၍ စက်ရုံမြေဧရိယာ ၂၀၄၇.၉၆၇ ဧကအနက် ၁၃၄ ဧကတွင် စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြင်ဆင်ချုပ်ဆိုခြင်းဖြစ်ပါသည်။

(ဓ) ကုမ္ပဏီသည် ပြည်တွင်းမှ ဝါးများနှင့် ပြည်ပမှ စွန့်ပစ်စက္ကူများအား ကုန်ကြမ်း အဖြစ်အသုံးပြု၍ စက္ကူပျော့ဖတ်များကို ထုတ်လုပ်သွားမည်ဖြစ်ပါသည်။ ပြည်ပမှ တင်သွင်းမည့် စွန့်ပစ်စက္ကူကုန်ကြမ်းမှာ တစ်နှစ်လျှင် ၁၉၈,၀၅၈,၂၅၂ Kg ဖြစ်ပြီး အမေရိကန်၊ အင်္ဂလန်နိုင်ငံ၊ ဂျပန်နိုင်ငံ၊ ထိုင်ဝမ်၊ ထိုင်းနိုင်ငံနှင့် ဩစတြေးလျနိုင်ငံ တို့မှ တင်သွင်းမည်ဖြစ်ပါသည်။ ကုန်ကြမ်းတင်သွင်းမှုအတွက် သယံဇာတနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ကုမ္ပဏီမှသွားရောက်တွေ့ဆုံခဲ့ပြီးဖြစ် ပါကြောင်း ဆွေးနွေးချက်မှတ်တမ်းတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံ မှုဖြင့် Best Eternity Recycle Pulp and Paper Co., Ltd. မှ စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေး ရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

**BEST ETERNITY RECYCLE PULP AND PAPER CO.,LTD**

**(BAMBOO PULP & WET PULP FACTORY)**

**PROPOSAL OF THE PROMOTER**

**TO MAKE JOINT VENTURE INVESTMENT**

**IN THE UNION OF MYANMAR**

သို့

ဥက္ကဋ္ဌ
မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ။၂၀၁၈ခုနှစ်၊ စက်တင်ဘာလ ၊ (၁၉)ရက်။

အကြောင်းအရာ။ ။ရေနီစက္ကူနှင့်ပျော့ဖတ်စက်ရုံအား အကြီးစားပြုပြင်မွမ်းမံ၍လုပ်ငန်းတိုးချဲ့လည်ပတ်နိုင်ရေး နှင့် Imported OCC paper မှ Wet Pulp Sheet များ ထုတ်လုပ်နိုင်ရေး အတွက် ဖက်စပ်ကုမ္ပဏီ တည်ထောင်လုပ်ကိုင်သွားရန် အဆိုပြုလွှာတင်ပြခြင်း။

၁။ လက်ဝါးကုမ္ပဏီသည် ရေနီ စက္ကူစက်ရုံအား ၂၀၁၃ ခုနှစ် အောက်တိုဘာလမှ စတင်၍ နှစ်ရှည်စာချုပ်ဖြင့် ငှားရမ်းလုပ်ကိုင်ခဲ့ပါသည်။ ရေနီစက္ကူစက်ရုံအား ၂၀၁၄ ခုနှစ်နှင့် ၂၀၁၅ ခုနှစ်များတွင် လည်ပတ်ခဲ့သော်လည်း ဆုံးရှုံးမှုများစွာရှိခဲ့ပါသည်။ စက္ကူစက်ရုံအား ပြုပြင်ထိန်းသိမ်းသည့်နည်းပညာနှင့် အပိုပစ္စည်းများ ဝယ်ယူရေးတွင် များစွာပြဿနာများရှိခဲ့ပြီး တစ်နေ့လျှင် ၂၅ တန်ဝန်းကျင်သာ ထုတ်လုပ်နိုင်ခဲ့ပြီး ထုတ်လုပ်ပြီး ထုပ်ပိုးစက္ကူများမှာလည်း ဘီလပ်မြေစက်ရုံများမှ ထုပ်ပိုးစက္ကူသုံးစွဲမှု မရှိတော့သဖြင့် ယနေ့အချိန်အထိ စီးပွားဖြစ်ရောင်းချနိုင်ခြင်းမရှိသဖြင့် စီးပွားဖြစ်ထုတ်လုပ်နိုင်ခြင်း မရှိပါ။

၂။ သို့ပါ၍ စက္ကူလုပ်ငန်းတွင် နှစ်ပေါင်း၂၅ နှစ်ကျော်အတွေ့အကြုံရှိသော တစ်နှစ်လျှင် စက္ကူတန်ချိန် ခြောက်သန်းကျော် ထုတ်လုပ်လျက်ရှိသော Lee & Mann Paper Group မှ Jolly Alliance International Limited နှင့် ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp and Paper Company Limited ထူထောင်၍ ပျော့ဖတ်နှင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်သွားလိုပါသည်။ နည်းပညာနှင့် အရင်းအနှီးများ အားလုံးအား Jolly Alliance International Limited မှ စိုက်ထုတ်ရင်းနှီးမြှုပ်နှံ၍ ရှယ်ယာ ၈၀% ရယူရန်နှင့် လက်ဝါးကုမ္ပဏီမှ ရှယ်ယာ ၂၀% ရယူသွားရန်ဖြစ်ပြီး ဝန်ထမ်းစီမံခန့်ခွဲရေးများကို လုပ်ကိုင်သွားရန်ဖြစ်ပါသည်။

ဝါးပျော့ဖတ်စက်ရုံများ (တန်၁၀၀၊ တန် ၆၀)

၃။ ပထမအဆင့်အနေဖြင့် တန်(၈၀)လိုင်းအား တန် ၁၀၀ နှင့် တန်(၅၀)လိုင်းအား တန် ၆၀ စုစုပေါင်း တန် (၁၆၀)ထုတ်လုပ်နိုင်ရန်ပြုပြင်မွမ်းမံသွားမည်ဖြစ်ပြီး တစ်နှစ်လျှင် ဝါးပျော့ဖတ် တန်ချိန် ၅၂,၈၀၀ တန် ထုတ်လုပ်၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချသွားမည်ဖြစ်ပါသည်။ တန်(၁၀၀) စက်ရုံအား စီးပွားဖြစ်လည်ပတ် နိုင်ရန် ပြင်ဆင်မှုများ လုပ်ဆောင်သွားမည်ဖြစ်ပါသည်။ ထပ်မံတင်သွင်းလာမည့် စက်ပစ္စည်းများအား ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုပါသည်။

Recycle Paper 50% Wet Paper Pulp

၄။ Recovered OCC Paper (Imported OCC Paper) မှ တစ်နေ့လျှင် 50% Wet Paper Pulp တန်ချိန် ၆၀၀ ကျ စက်လိုင်း လေးလိုင်းအား တစ်ပြိုင်တည်း ရင်းနှီးမြှုပ်နှံသွားလိုပါသည်။ ကုန်ကြမ်းဖြစ်သော Recovered OCC Paper (USA export Code AMIX3 and/or UKMIX 3) အား အမေရိကန်နိုင်ငံ (သို့ )အင်္ဂလန်နိုင်ငံမှ တစ်နှစ်လျှင် တန်ချိန် ၆၀၀,၀၀၀/ တင်သွင်းမည်ဖြစ်ပြီး 50% Wet Paper Pulp အား

တစ်နေ့လျှင် တန်ချိန် ၂၄၀၀ နှုန်းဖြင့် တစ်နှစ်လျှင် တန်ချိန် ၈၀၀,၀၀၀/ ထုတ်လုပ်၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချသွားမည်ဖြစ်ပါသည်။

၅။ Bamboo Pulp နှင့် Recycle paper pulp စက်ရုံများ လည်ပတ်နိုင်သည့်အချိန်တွင် ရေဆိုးစွန့်စက်ရုံအားလည်း အဆင့်မြင့်တင်ပြီး လက်ရှိ စွန့်ပစ်ရေ COD 400 မှ COD 100 အောက်သို့ လျော့ချသွားနိုင်မည်ဖြစ်ပါသည်။ သတ်မှတ်ထားသည့် သတ်မှတ်ချက်ထက် ကောင်းမွန်သောစွန့်ပစ်ရေများသာ ပြန်လည်စွန့်ပစ်သွားမည်ဖြစ်ပါသည်။

၆။ လိုအပ်သောကုန်ကြမ်းများ အဆက်မပြတ်ရရှိနိုင်ရေးအတွက် စက်မှုကုန်ကြမ်းစိုက်ခင်းအတွင်း တောင်သူအစုအဖွဲ့များအား ဝါးစိုက်ပျိုးရေး နည်းပညာနှင့် စနစ်တကျ ဝါးထုတ်ယူနိုင်ရေးအတွက် နည်းပညာလွှဲပြောင်းပေးပြီး လုပ်ကိုင်သွားမည်ဖြစ်ပါသည်။ ဝါးစိုက်/ဝါးခုတ် တောင်သူ ၁၀၀၀ နီးပါးအား အလုပ်ကိုင်တိုးမြှင့်ပေးနိုင်မည်ဖြစ်ပါသည်။

၇ ။ ရန်ကုန်ဆိပ်ကမ်းမှ ကုန်ပစ္စည်းတင်သွင်းခြင်းနှင့် တင်ပို့ခြင်းများအား တစ်ရက်လျှင် ကွန်တိန်နာအလုံး ၁၀၀ ကျော် အစုန်အဆန် ရှိမည်ဖြစ်ပြီး မြန်မာ့မီးရထားလုပ်ငန်းနှင့် ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်၍ မီးရထားလုပ်ငန်းများ အတွက်လည်း ဝင်ငွေရရှိစေနိုင်မည်ဖြစ်ပါသည်။

၈။ ပထမအဆင့် ဝါးပျော့ဖတ်နှင့် Wet Pulp Sheet တို့တွင် ရင်းနှီးမြှုပ်နှံမှု နှင့် စက်ရုံလည်ပတ်ရန် အဓိကလိုအပ်ချက်ဖြစ်သော လျှပ်စစ်မီးအဆက်မပြတ်ရရှိရေးအတွက်လည်း Coal နှင့် Biomass အသုံးပြုမည့် Clean Coal Technology ဖြင့် တည်ဆောက်သွားမည့် 2 x 30MW Power Plant အတွက် US$65.5 Millions အပါအဝင် စုစုပေါင်းမှာ အမေရိကန်ဒေါ်လာ ၁၃၃.၄၉၀၈ သန်းခန့်ဖြစ်ပြီး ၂၀၂၀ ခုနှစ်အတွင်း အပြီးရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု ပါမစ်အား ၂၀၁၈ခုနှစ် စက်တင်ဘာလအတွင်း ရရှိပါက ၂၀၁၉ ခုနှစ် မတ်လတွင် စမ်းသပ်လည်ပတ်ပြီး ၂၀၁၉ ခုနှစ် မေလမှ စတင်လည်ပတ်နိုင်ရန် ရည်ရွယ်ပါသည်။

<u>လုပ်ငန်းလည်ပတ်မည့် စနစ်</u>

၉ ။ ဝါးပျော့ဖတ်များနှင့် Wet Pulp Sheet များ ထုတ်လုပ်ရေးအတွက် လိုအပ်မည့် NaOH (Caustic Soda), OCC paper များအား နိုင်ငံခြားမှ ပေးပို့မည်ဖြစ်ပါသည်။

၁၀။ မြန်မာနိုင်ငံတွင်းမှ ကုန်ကြမ်းများအနေဖြင့် ဝါးကုန်ကြမ်းများအား အသုံးပြုသွားမည်ဖြစ်ပါသည်။ ဝါးပျော့ဖတ်ထုတ်လုပ်မှုနှင့် Recycle Wet Pulp Sheet ထုတ်လုပ်မှုတို့အား လုပ်ကိုင်ခွင့် လျှောက်ထားလိုပါသည်။ ဝါးဝယ်ယူ အသုံးပြုမှုအတွက် သတ်မှတ်အခွန်နှုန်းအား ပေးသွင်းမည် ဖြစ်ပါသည်။

၁၁။ သို့ပါ၍ ထွက်ကုန်၏ ၉၀%(သို့မဟုတ်) ၉၀%နှင့် အထက်အား နိုင်ငံခြားသို့တင်ပို့သွားမည်ဖြစ်ပြီး ၁၀% (သို့မဟုတ်) ၁၀% အောက်အား ပြည်တွင်းလိုအပ်ချက်ရှိပါက ရောင်းချသွားမည်ဖြစ်ပြီး ပြည်တွင်းရောင်းချမှုရှိပါက ပြည်တွင်းအခွန်၏ သတ်မှတ်ချက်များအတိုင်း အခွန်ပေးဆောင်သွားမည်ဖြစ်ပါသည်။ ပြည်တွင်းလိုအပ်ချက် လုံးဝမရှိပါက ၁၀၀% နိုင်ငံခြားသို့တင်ပို့သွားမည် ဖြစ်ပါ၍ ကုန်ကြမ်းများတင်သွင်းစဉ်တွင် အခွန်ပေးဆောင်ခြင်း ကင်းလွတ်ခွင့်ပြုရယူလိုပါသည်။

## Water & Solid Waste Management

၁၂။ ကုမ္ပဏီအနေဖြင့် Recycle OCC Paper တွင် ပါလာမည့် အောက်ပါစက္ကူမဟုတ်သည့် ပစ္စည်းများကိုလည်း စနစ်တကျ စီမံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

က။ Plastic Tape- ယင်းတို့ကို ပြန်လည်အသုံးချနိုင်သည့် ကော်စေ့များအဖြစ် ထုတ်လုပ်ပြီး ပြန်လည်အသုံးပြုသွားနိုင်ရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ခ။ Metal & Metal Clip - ကာတွန်းပုံးများတွင် ကပ်လျက်ပါလာသော သံ သို့မဟုတ် သံကလစ်များ အား စနစ်တကျ သံလိုက်စနစ်အသုံးပြု ရွေးချယ်သွားမည်ဖြစ်ပြီး သံရည်ကျိုလုပ်ငန်းများသို့ သက်သာသော ဈေးနှုန်းဖြင့် ရောင်းချသွားမည်ဖြစ်ပါသည်။

ဂ။ နောက်ဆုံးကျန်ရစ်မည့် သဲပါဝင်သော အနည်များအား ကွန်ကရစ်တုံးများ ပြုလုပ်ရာတွင် ထည့်သွင်း အသုံးပြုခြင်း နှင့် ကျန်ရှိသော စက္ကူအကြွင်းအကျန်များအား လောင်စာတောင့်များ ပြုလုပ်သွားမည်ဖြစ်ပါသည်။

၁၃။ သို့ပါ၍ တင်သွင်းလာသည့် Recovered OCC Paper များအား အလုံးစုံ ပြန်လည် အသုံးပြုနိုင်သည့် နည်းပညာများ ရှိသောကုမ္ပဏီဖြစ်သည့် အားလျော်စွာ အလုံးစုံပြန်လည်အသုံးပြုသွားမည်ဖြစ်ကြောင်းနှင့် စွန့်ပစ် solid အမှိုက် မရှိသလောက်နည်းမည်ဖြစ်ကြောင်းနှင့် အသုံးပြုမည့်ရေကိုလည်း ကောင်းစွာသန့်စင်မည်ဖြစ်ပြီး သန့်စင်ပြီး ရေများအားလည်း Close System နည်းပညာဖြင့် ပြန်လည် အသုံးပြုမည်ဖြစ်၍ ရေအသုံးပြုမှုလည်း အနည်းဆုံးဖြစ်မည် ဖြစ်ကြောင်းလည်း တင်ပြအပ်ပါသည်။

## ဒုတိယအဆင့်အနေဖြင့်

၁၄။ တစ်နေ့လျှင်တန်(၃၀၀)ကျ စက်ရုံတည်ဆောက်လည်ပတ်နိုင်ရန် လိုအပ်သောကုန်ကြမ်းများ အဆက်မပြတ် ရရှိနိုင်ရေးအတွက် စက်မှုကုန်ကြမ်းစိုက်ခင်းအတွင်း တောင်သူအစုအဖွဲ့များအား ဝါးစိုက်ပျိုးရေး နည်းပညာနှင့် စနစ်တကျ ဝါးထုတ်ယူနိုင်ရေးအတွက် နည်းပညာလွှဲပြောင်းပေးပြီး လုပ်ကိုင်သွားမည်ဖြစ်ပါသည်။ သို့ပါ၍ ပျော့ဖတ် တစ်နှစ်လျှင် တန်ချိန်၁၀၀,၀၀၀ခန့် ထုတ်လုပ်ပြီး နိုင်ငံခြားသို့တင်ပို့ခြင်းဖြင့် နိုင်ငံခြားဝင်ငွေ အမေရိကန်ဒေါ်လာ ၁၃၃ သန်းခန့် ဝင်ငွေ ထပ်မံရရှိလာနိုင်မည် ဖြစ်ပါသည်။ ဤအဆင့်တွင် ဝါးစိုက်/ဝါးခုတ် တောင်သူ ၂၀၀၀ နီးပါးအား အလုပ်ကိုင်တိုးမြှင့်ပေးနိုင်မည် ဖြစ်ပါသည်။ ဤအဆင့်အတွက် သီးခြား ရင်းနှီးမြှုပ်နှံမှု တိုးမြှင့်ခွင့်ဖြင့် လျှောက်ထားမည်ဖြစ်ပါသည်။ ကုန်ကြမ်းစိုက်ခင်းများ ထပ်မံလိုအပ်မည်ဖြစ်၍ ထပ်မံလျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

## ရင်းနှီးမြှုပ်နှံမှုတန်ဖိုး

ရင်းနှီးမြှုပ်နှံမှု စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၃၃.၄၉၀၈ သန်းဖြစ်ပြီး နိုင်ငံခြားမှ ချေးငွေ အမေရိကန်ဒေါ်လာ ၆၇.၉၄၈၇ သန်း အား တစ်နှစ်လျှင် အတိုးနှုန်း ၃ %၊ ဆိုင်းငံ့ကာလ ၅ နှစ်ပြီးနောက် တစ်နှစ်လျှင် ၂၀% နှုန်းဖြင့် ပြန်လည်ပေးဆပ်သွားရန်ဖြစ်ပါသည်။

<u>အကျိုးအမြတ်ခွဲဝေမှု</u>

၁၅။ အကျိုးအမြတ်အနေဖြင့် ပထမ(၇) နှစ်အတွက် ဖက်စပ်ကုမ္ပဏီမှ လက်ဝါးကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်၏ ၁၀ ရာခိုင်နှုန်းနှင့် နောက်ပိုင်းနှစ်များအတွက် ၂၀% အား စက်မှုဝန်ကြီးဌာနသို့ ခွဲဝေပေးသွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Dr.U Khin Maung Aye
Director
Best Eternity Recycle Pulp And Paper Co.,Ltd

# Ever Green Tech

## Environmental Services and Training Co., Ltd.

No.14, Thiri Myine 8th Road, 13th Quarter, HlaingTsp.,
Yangon, Myanmar.
Phone:09-5099232,09-43106929, 09799700171, 0991019166
Email- 11kyawswar@gmail.com

GT- Undertaking Letter/ 032/2018

Date – 22.9.2018

**To Whom It May Concern**

Best Eternity Recycle Pulp and Paper Co., Ltd. will operate recycled pulp and paper factory in Yeni Industrial Zone, Myanmar. Ever Green Tech Environmental Services and Training Co. Ltd. was appointed by Best Eternity to conduct Environmental Impact Assessment (EIA) and compile Environmental Management Plan (EMP) for the proposed recycled paper factory. The EIA and EMP are required for environmentally approvals from Environmental Conservation Department (ECD, Nay Pyi Daw), Environmental Conservation Department (ECD, Yangon) and Myanmar Investment Commission (MIC). We (Ever Green Tech) will continue to submit EIA & EMP report to MIC. In making EIA & EMP, Green Tech will follow to the Environmental Impact Assessment Procedures (2015) and Myanmar National Emission Guidelines (2015).

Best Regards,

(Dr. Kyaw Swar Tint)

Principal Environmental and
Social Consultant
Ever Green Tech Environmental Services Co., Ltd

Ever Green Tech Enviromental Services & Training Co.,Ltd.
No....
Date ....

**Ever Green Tech**
**Environmental Services and Training Co., Ltd.**
No.14, Thiri Myine 8th Road, 13th Quarter, Hlaing Tsp.,
Yangon, Myanmar.
Phone:0943106929, 09799700171, 0991019166
Email- 11kyawswar@gmail.com

GT- Undertaking Letter/ 032/2018

---

ရက်စွဲ - ၂၂၊ ၉၊ ၂၀၁၈

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်မြို့။

Environmental Services & Training Green Tech Co., Ltd. No.... Date ....

**အကြောင်းအရာ။ ။ပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment, EIA) လုပ်ငန်းစဥ်များ စတင်လုပ်ဆောင်နေပြီဖြစ်ကြောင်း အစီရင်ခံတင်ပြခြင်း၊**

အထက်အကြောင်းအရာပါကိစ္စနှင့်ပက်သက်၍ရေနီမြို့နယ်၊ရေနီစက်မှုဇုံအတွင်းတွင်တည်ဆောက်မည့် Best Eternity Recycle Pulp and Paper မှ တာဝန်ယူတည်ဆောက်မည့် စက္ကူစက်ရုံ (Recycled pulp and paper factory)အတွက်ပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ခြင်းစီမံချက် (Environmental Impact Assessment, EIA)အား ကျွန်တော်များ၏ Ever Green Tech Environmental Services and Training Co., Ltd. မှ တာဝန်ယူရေးဆွဲပေးလျက်ရှိပြီး EIA အစီရင်ခံစာအား ဆက်လက်တင်သွင်းသွားမည် ဖြစ်ပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဒေါက်တာကျော်စွာတင့်)

Principal Environmental and
Social Consultant
Ever Green Tech
Environmental Services Co., Ltd.

Best Eternity Recycle Pulp and Paper Company Limited
ဘက်စ် အီတာနတီ ရီဆိုင်ကယ်လ် ပတ်ဖ် အန် ပေပါ ကုမ္ပဏီ လီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်။
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ (၁၈) ရက်။

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ Recovered Old Corrugated Containers (OCC) တင်သွင်းရေးနှင့်ပတ်သက်၍ သွားရောက်ဆွေးနွေးထားခြင်းအား အစီရင်ခံခြင်း။

၁။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၏ စီစဉ်ပေးမှုဖြင့် ကျွန်တော် ဒေါက်တာ ဦးခင်မောင်အေး၊ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းမှ အထွေထွေမန်နေဂျာ ဦးမောင်မောင်သန့် တို့သည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ စက်တင်ဘာလ (၁၃)ရက်နေ့တွင် သွားရောက်၍ ဦးဆောင်ညွှန်ကြားရေးမှူး (ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန)၊ ညွှန်ကြားရေးမှူး (EIA)၊ ညွှန်ကြားရေးမှူး (ကာကွယ်ရေး) တို့နှင့် နေ့လည် ၁း၃၀ အချိန်တွင် Recovered OCC paper များ တင်သွင်းရေးနှင့်ပတ်သက်၍ အသေးစိတ်ဆွေးနွေး ခဲ့ကြပါသည်။

၂။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းမှ အထွေထွေမန်နေဂျာ ဦးမောင်မောင်သန့်မှ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)မှ စက္ကူစက်ရုံ(ရေနီ) အား (၂၀၀၃)ခုနှစ်မှ စတင်ဒီဇိုင်းရေးဆွဲ တည်ဆောက်ခဲ့ပြီး စတင်ဒီဇိုင်းဆွဲစဉ်ကပင် သဘာဝပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အထူးဂရုပြုခဲ့ပြီး တန်ဖိုးကြီးမားသောရေဆိုးစွန့် တစ်နေ့လျှင် ကုဗမီတာ (၁၆၀၀၀) ကျော် သန့်စင်နိုင်သော ရေဆိုးသန့်စက်ရုံကို ထည့်သွင်း၍ အမေရိကန်ဒေါ်လာ (၈၆)သန်းကျော် အကုန်အကျခံ၍ ဘီလပ်မြေစက္ကူ (ထုပ်ပိုး) စက္ကူများ ထုတ်လုပ်သည့် စက်ရုံအား တည်ဆောက်ခဲ့ရာ ၂၀၀၈-၂၀၀၉ ခုနှစ်တွင် တည်ဆောက်ပြီးစီးလည်ပတ်ခဲ့ပြီး ၂၀၁၂ ခုနှစ်တွင် လုပ်ငန်းအရှုံး ကြီးမားသဖြင့် ရပ်နားခဲ့ပြီး တင်ဒါစနစ်ဖြင့် လက်ဝါးကုမ္ပဏီသို့ (၂၀၁၃) ခုနှစ် အောက်တိုဘာလမှ စတင်၍ တစ်နှစ်လျှင် ကျပ်ငွေ (၉၅၀)သန်းဖြင့် နိုင်ငံ့ဝန်ထမ်း (၁၂၀၀)ဦးနှင့်တစ်ကွ ပြည်ထောင်စုအစိုးရ၏ သဘောတူညီချက်ဖြင့် နှစ်ရှည်ငှားရမ်းပေးခဲ့ပါသည်။

၃။ ဒေါက်တာ ဦးခင်မောင်အေးမှ ထိုငှားရမ်းစာချုပ် ချုပ်ဆိုသည့်အခမ်းအနားတွင် ထိုစဉ်က စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၏ ဦးဆောင်ညွှန်ကြားရေးမှူး ဦးရည်မွန်မှ အလုပ်မလုပ်ဘဲနေလျှင် ကျပ်သုံးဘီလီယံကျော်အရှုံးပေါ်ပြီး အလုပ်လုပ်ပါက ကျပ်ခုနစ်ဘီလီယံကျော် အရှုံးပေါ်နေသည့် အထုပ်ကြီးအား လွှဲပြောင်းပေးနိုင်ခဲ့သဖြင့် ဝမ်းမြောက်ပါကြောင်း ပြောကြားခဲ့သည်ကို ယနေ့အထိအမှတ်ရရှိပါကြောင်း၊ လုပ်ငန်းလွှဲပြောင်းရယူပြီးနောက် စက်ရုံအား အကြီးစားပြင်ဆင်မွမ်းမံခဲ့ပြီး လုပ်ငန်းများ စတင်လည်ပတ်ခဲ့ပြီးနောက် နိုင်ငံတော်မှ မီးထိုးဆီရောင်းချပေးနိုင်ခြင်းမရှိသဖြင့် လုပ်ငန်းများရပ်နားထားခဲ့ရပါသည်။ တစ်ဖန် မီးထိုးဆီဘွိုင်လာများ

အား သဘာဝဓါတ်ငွေ့သုံး ဖြစ်အောင် ကျပ် တစ်ဘီလီယံကျော် ထပ်မံရင်းနှီးမြှုပ်နှံခဲ့ပြီး လုပ်ငန်းများအား ထပ်မံ စမ်းသပ်လည်ပတ်ခဲ့ပါသည်။ သို့သော် နည်းပညာအခက်အခဲနှင့် အကြောင်းအမျိုးမျိုးကြောင့် တစ်နေ့လျှင် (၂၅) တန်ခန့်သာ ထုတ်လုပ်နိုင်ခဲ့ပြီး စုစုပေါင်းတန်ချိန် (၂၀၀၀)ခန့်ထုတ်လုပ်ခဲ့ပြီး ထုတ်လုပ်ပြီး စက္ကူ၏ စံချိန်မမှီခြင်း နှင့် ဘီလပ်မြေစက္ကူစက်များ စက္ကူအစား အခြားအိတ်များ ပြောင်းလဲသုံးစွဲနေသည့်အတွက် ယခုအချိန်အထိ ရောင်းမကုန်ဖြစ်နေရပါကြောင်း၊ ထိုထုတ်လုပ်စဉ်ကပင် ရေဆိုးစွန့်စက်ရုံအား ကောင်းစွာလည်ပတ်နိုင်ခဲ့ပြီး ပတ်ဝန်းကျင်နှင့် ပြဿနာဖြစ်ခဲ့ခြင်း အလျင်းမရှိခဲ့ပါကြောင်း၊ ယနေ့အချိန်အထိ ရင်းနှီးမြှုပ်နှံငွေ၊ ဗှားရမ်းခ၊ ဝန်ထမ်းလစာ၊ စရိတ်နှင့်ခံစားခွင့်များအပါအဝင် ပေးရန်ရှိနှင့်ပေးပြီးစုစုပေါင်း ငါးနှစ်အတွင်း ကျပ်ငွေ ဘီလီယံ (၂၀)ခန့် အရှုံးပေါ်ခဲ့ပြီးဖြစ်သော်လည်း စက္ကူနှင့်ပျော့ဖတ်ထုတ်လုပ်ရေးသည် နိုင်ငံအတွက် အရေးပါသည့် အပြင် နိုင်ငံတော်မှသန်းပေါင်းများစွာ ရင်းနှီးမြှုပ်နှံခဲ့သော လုပ်ငန်းတစ်ခုအား အောင်မြင်အောင်လုပ်ကိုင်နိုင် မည်ဟု ယုံကြည်ချက် အပြည့်အဝထားလျက် နည်းမျိုးစုံဖြင့် ကြိုးစားဆောင်ရွက်ခဲ့ပါကြောင်း၊ ယခုအခါ ကမ္ဘာ့ အရည်အသွေးအကောင်းဆုံးနှင့် ဒုတိယအကြီးဆုံး စက္ကူထုတ်လုပ်ရေး ကုမ္ပဏီဖြစ်သော Lee & Mann Paper Group ဝင် Jolly Alliance International Limited နှင့် ပူးပေါင်း ၍ Best Eternity Recycle Pulp & Paper Company Limited ထူထောင် လုပ်ကိုင်ရန်ဖြစ်လာပါကြောင်း၊ Lee & Mann Paper မှ ပညာရှင်များ ရာကဏန်း အထိ လာရောက်၍ စက်ရုံအား အသေးစိတ် လေ့လာတွက်ချက်ပြီးနောက် စက်ရုံ၏ ထုတ်လုပ်မှုအရွယ်အစား မှာ စီးပွားရေး တွက်ချေကိုက်မှု မရှိနိုင်ကြောင်း၊ နိုင်ငံတကာတွင် အဆိုပါ ထုတ်ပိုးစက္ကူများမှာ သဘာဝ ဝါးမှ ထုတ်လုပ်မှု လုံးဝမပြုလုပ်တော့ဘဲ Recovered OCC Paper များကို အသုံးပြုပြီး Liner Paper များ ထုတ်လုပ် ကြကြောင်း၊ သို့ပါ၍ Recovered OCC Paper များတင်သွင်း၍ စီးပွားဖြစ်နိုင်မည့် အရွယ်အစားရှိသော တစ်နေ့လျှင် တန်ချိန်(၂၄၀၀) ကျ 50% Wet Pulp Board များထုတ်လုပ်သည့် စက်ရုံတည်ဆောက်မှသာလျှင် စီးပွားဖြစ်နိုင်မည်ဖြစ်ကြောင်းနှင့် Bamboo Pulp များအား Pulp အတိုင်း ရောင်းချခြင်းဖြင့်သာ ပိုမိုအဆင်ပြေ မည်ဖြစ်ကြောင်း တင်ပြခဲ့ပါသည်။

၄။ ထို့နောက် စက္ကူစက်ရုံ(ရေနီ)တွင် လက်ရှိရေဆိုးသန့်စင်စက်ရုံ၏ပုံနှင့် လုပ်ဆောင်ပုံအဆင့်ဆင့်အား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးများအား တင်ပြပါသည်။ ယင်းရှိပြီး စက်ရုံမှာ တစ်နေ့လျှင် ထွက်ရှိလာမည့်ရေဆိုး တန် (၁၅၀၀၀)၊ ကုဗမီတာ (၁၅၀၀၀) အား သန့်စင်သည့် Heavy Duty လုပ်ကိုင်နိုင်သည့် လုပ်ငန်းဖြစ်ကြောင်း Recovered OCC paper ထုတ်လုပ်သည့် လုပ်ငန်းအဆင့်ဆင့် ပါဝင်သော Video Clip၊ ရေဆိုးသန့်စင်သည့် နည်းပညာအသစ် ပါဝင်သည့် တင်ပြစာနှင့် ရေဆိုးသန့်စင်စနစ်၏ video တို့အား တင်ပြရှင်းလင်း ခဲ့ပါသည်။

၅။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ညွှန်ကြားရေးမှူးချုပ်မှ အဆိုပါ တင်သွင်းမှုသည် ပတ်ဝန်းကျင်ထိခိုက်မည်ကို ၄င်းတို့မှ အမြဲစိုးရိမ်စိတ်ရှိကြောင်း၊ ရင်းနှီးမြှုပ်နှံမည့်သူမှာ ဟောင်ကောင်မှ နာမည်ကြီးကုမ္ပဏီဖြစ်သည်ကို သိရသဖြင့် ပိုမိုအဆင်ပြေပါကြောင်း၊ တရုတ်နိုင်ငံမှ ပတ်ဝန်းကျင်ထိခိုက်မှုဖြစ်၍ ဖြုတ်လာသော တစ်ပတ်ရစ်

စက်များမဖြစ်ရန်လိုကြောင်း၊ ကြီးမားသော စက္ကူနှင့်ပျော့ဖတ်ထုတ်လုပ်သည့် လုပ်ငန်းဖြစ်၍ EIA လုပ်ဆောင်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ EIA လုပ်မည့် Third Party ရွေးချယ်ရာတွင် အထူးဂရုစိုက်ဖို့ လိုမည်ဖြစ်ကြောင်း၊ စက္ကူနှင့်ပျော့ဖတ်လုပ်ငန်းအကြောင်း နားလည်သူပါဝင်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ ယင်းလုပ်ငန်းသည် ရေဆိုး သာမက အနံ့ဆိုးများပါ ထိန်းသိမ်းနိုင်ဖို့လိုအပ်မည်ဖြစ်ကြောင်း၊ EIA လုပ်ပြီးနောက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဌာနသို့ တင်ပြစစ်ဆေးရန်လိုကြောင်း၊ လိုအပ်ချက်များကို ပြင်ဆင်ပြီးနောက် ညွှန်ကြားချက်များအတိုင်း စနစ်တကျ၊ အတိအကျ ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး(သို့) ထိခိုက်မှုမရှိအောင် EIA ညွှန်ကြားချက်အတိုင်း ဆောင်ရွက်ဖို့လိုကြောင်း ပြောကြားပါသည်။ တည်ဆောက်ပြီးလုပ်ငန်းလည်ပတ်နေသည့် လုပ်ငန်းများကိုမူ Environment Management Program ရေးဆွဲ လုပ်ကိုင်ရန်လိုအပ်မည်ဖြစ်ကြောင်း ညွှန်ကြားခဲ့ပါသည်။

၆။ EIA Department မှ ညွှန်ကြားရေးမှူးမှ Recovered OCC Paper များမှသာ Liner Paper များ ထုတ်လုပ်နေသည်မှာ မှန်ကြောင်း၊ Liner Paper အထိ ထုတ်လုပ်ပါက ဆိုးဆေးသုံးစွဲသည်ဟု သိရှိထားကြောင်း၊ Recovered OCC Paper များကို Pulp များ ပြန်ထုတ်သည့်လုပ်ငန်းမှာ ဝါးပျော့ဖတ်ထုတ်လုပ်သည်ထက် ရှင်းလင်းမှု ပိုရှိကြောင်း၊ ဝါးပျော့ဖတ်ကဲ့သို့ Chemical များစွာ သုံးရခြင်းမရှိကြောင်း၊ Mechanical နည်းစနစ်ဖြင့်သာ ဆောင်ရွက်ခြင်းဖြစ်သည်ကို သိရှိပါကြောင်း ပြောပါသည်။

၇။ ဦးခင်မောင်အေးမှ ယခုလာရောက်ရင်းနှီးမြှုပ်နှံမည့်သူများမှာ Lee & Mann Group ကိုတည်ထောင်သည့် Lee's Family မှဖြစ်ကြောင်း၊ ယင်းကုမ္ပဏီသည် တရုတ်တစ်နိုင်ငံလုံးတွင် လက်ရှိ မြို့ကြီး၊မြို့တွင်စက်ရုံများ လက်ရှိလည်ပတ်လျက်ရှိကြောင်း၊ စက္ကူထုတ်လုပ်ရေးတွင် ကမ္ဘာ့နံပါတ် (၂) ဖြစ်ကြောင်း၊ ရေဆိုးစွန့်ခြင်း သန့်စင်ခြင်းနှင့် ပတ်သက်၍ ကိုယ်ပိုင် Research & Development လုပ်သကဲ့သို့ ကိုယ်ပိုင် Patent များလည်း ရှိကြောင်း၊ အခြားသော စက္ကူစက်များထက် စွန့်ပစ်ရေ အရည်အသွေး ပိုမိုကောင်းမွန်အောင် ဆောင်ရွက် နိုင်ကြောင်း၊ စွန့်ပစ်ရေများအား real time တပ်ဆင်စောင့်ကြည့်သည့်စနစ်ကို တပ်ဆင်လုပ်ဆောင်နိုင်ကြောင်း၊ ယခု စီမံကိန်းတွင် မူလရှိပြီး ရေဆိုးစွန့်စက်ရုံအား အဆင့်မြှင့်တင်သုံးစွဲသွားမည်ဖြစ်ကြောင်း၊ Anaerobic System စနစ်ထပ်မံထည့်သွင်းသွားမည်ဖြစ်ကြောင်း၊ ဝါးပျော့ဖတ်ထုတ်လုပ်သည့် လုပ်ငန်းမှာ ဝါးစိုက်ပျိုးခြင်း၊ တောင်သူများနှင့် လက်တွဲဆောင်ရွက်ရန် လုပ်ဆောင်ရခြင်းနှင့် ကိုယ်ပိုင် Power Plant ဆောက်လုပ်ရန် လိုအပ်ခြင်းများကြောင့် အစောဆုံး ၂၀၁၉ နှစ်ကုန်မှသာ စတင်လည်ပတ်နိုင်မည်ဖြစ်ကြောင်း၊ နည်းပညာ အသစ် နှင့် Close Water System ဖြစ်ခြင်းတို့ကြောင့် 50% Wet pulp board တစ်နေ့ (၂၄၀၀) တန် ထုတ်လုပ်မှုမှ ရေဆိုး ကုဗမီတာ(၄၂၀၀) သာ ထွက်ရှိမည်ဖြစ်၍ လက်ရှိ ရေဆိုးသန့်စင်စက်ရုံမှ တစ်နေ့ (၁၅၀၀၀)ကုဗမီတာ ရှင်းလင်းနိုင်မည်ဖြစ်၍ ကောင်းမွန်နိုင်နင်းစွာ ဆောင်ရွက်နိုင်မည်ဖြစ်ပါကြောင်း တင်ပြခဲ့ ပါသည်။

၈။ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းမှ အထွေထွေမန်နေဂျာ ဦးမောင်မောင်သန့်မှ ရှိပြီး ရေဆိုးသန့်စက် မှာ တစ်နေ့လျှင် Chemical များ ပါဝင်သော ရေဆိုး ကုဗမီတာ (၁၅၀၀၀) ကို ကောင်းစွာကိုင်တွယ် သန့်စင်နိုင်ပြီး လက်ရှိ ကျွမ်းကျင်ဝန်ထမ်း (၄၀)ဦးဖြင့် လုပ်ငန်းလည်ပတ်နိုင်ရန် အစဉ်သင့်ရှိနေသည့် အခြေအနေဖြစ်ကြောင်း၊ ယခု Recoverd OCC Paper ဖြင့် ပျော့ဖတ်ချက်လုပ်သည့်လုပ်ငန်းစဉ်မှာ Chemical နည်းဖြင့် မဟုတ်ဘဲ Mechanical နည်းဖြင့် ပျော့ဖတ်ချက်လုပ်မည်ဖြစ်၍ ညစ်ညမ်းစေသော ပစ္စည်းပါဝင်မှု နည်းမည်ဖြစ်သည့်အပြင် တစ်နေ့လျှင် ရေဆိုးကုဗမီတာ(၄၂၀၀)သာ စွန့်ပစ်မည်ဖြစ်၍ များစွာလုံလောက်မှုရှိပါကြောင်း ထောက်ခံတင်ပြပါသည်။ နိုင်ငံတစ်ဝန်းရှိ SME အဆင့်ရှိ စက္ကူလုပ်ငန်းများမှာလည်း ပျော့ဖတ်လုံလောက်မှု မရှိသဖြင့် နိုင်ငံခြားမှ တင်သွင်းနေရသည့်အပြင် လုပ်ငန်းများရပ်ဆိုင်းလုမတတ်ဖြစ်နေပြီး အချို့မှာ လုပ်ငန်းရပ်စဲလိုက် ရပြီဖြစ်ပါသည်။ ဤကဲ့သို့ အရွယ်အစားကြီးမားသော စက်ရုံများသာလျှင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ရေဆိုးစွန့်စနစ် တပ်ဆင်ဆောင်ရွက်နိုင်ပြီး ပြည်တွင်းရှိစက်ရုံငယ်များအား ပျော့ဖတ်ရောင်းချပေးခြင်းဖြင့် ပြည်တွင်း စက္ကူစက်ငယ်များလည်း ရှင်သန်နိုင်မည်ဖြစ်ကြောင်း တင်ပြပါသည်။

၉ ။ ညွှန်ကြားရေးမှူး (ကာကွယ်ရေးဌာန (ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန)) မှ တင်သွင်းလာမည့် OCC paper များအား ပျော့ဖတ်ချက်လုပ်ရာတွင် Deinking လုပ်ဆောင်ရန် လိုခြင်းရှိမရှိ မေးမြန်းပါသည်။

၁၀။ ဒေါက်တာ ဦးခင်မောင်အေးမှ Recovered OCC Paper များသာဖြစ်၍ Deinking လုပ်ဆောင်ရန် လိုမည်မဟုတ်ကြောင်း ပြန်လည်တင်ပြခဲ့ပါသည်။

၁၁။ ညွှန်ကြားရေးမှူးချုပ် (ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန) မှ Plastic များနှင့် အခြားသော အမှိုက်များ ပတ်ဝန်းကျင်ထိခိုက်နိုင်သည့်ပစ္စည်းများ တင်သွင်း၍ နိုင်ငံအတွင်း စွန့်ပစ်ရန် ကြိုးစားနေကြသူများရှိ၍ ၄င်းတို့ ဌာနအနေဖြင့် အလွန်သတိထားနေရခြင်းဖြစ်ကြောင်း၊ နှုတ်ဖြင့်ပြောရုံဖြင့် မရကြောင်း၊ အလုပ်ဖြင့် သက်သေပြရမည်ဖြစ်ကြောင်း ပြောကြားခဲ့ပါသည်။

၁၂။ ဒေါက်တာဦးခင်မောင်အေးမှ Recovered OCC Paper များ တင်သွင်းရာတွင်လည်း စက္ကူပုံးခွံများတွင် ပတ်လျက်ပါလာမည့် PE Plastic Tape များ ကပ်လျက်လည်းကောင်း၊ ကာတွန်းပုံး ခိုင်ခန့်အောင်တွဲသော Iron Clipများ တွဲလျက်ပါလာနိုင်ပါကြောင်း၊ ယင်းပစ္စည်းများအား ခွဲထုတ်နိုင်မည့် ရေဆေးသည့် စက်လိုင်းအားလည်း တည်ဆောက်သွားမည်ဖြစ်ပြီး ယင်းမှ အဆိုပါ Plastic၊ သံထည်ပစ္စည်းများနှင့် စက္ကူလုပ်နိုင်သည့် Fibre အား လုံးဝမရှိတော့သည့် စက္ကူအကြွင်းအကျန်နှင့် အမှုန်အမွှား သဲများအား သီးခြားစီ ခွဲထုတ်ပြီး စီမံခန့်ခွဲသွားနိုင်ရန်ဖြစ်ပါသည်။ Plastic များအား ကော်စေ့များအဖြစ် ပြန်လည် ထုတ်လုပ်ပြီး Plastic ပရိဘောဂ ထုတ်လုပ်သည့်ရုံများသို့လည်းကောင်း၊ သံထည်ပစ္စည်းများအား သံရည်ကျို စက်ရုံများသို့လည်းကောင်း၊ စက္ကူပြန်လုပ်ရန် မသင့်တော်သော Fibre အကြွင်းအကျန်များအား Pallet များအဖြစ် လုပ်ဆောင်၍ ဘွိုင်လာများတွင် လောင်စာအဖြစ် သုံးစွဲသွားရန် ဖြစ်ပြီး၊ နောက်ဆုံး ကျန်ရှိမည့် သဲပါဝင်သော အနည်များအား ကွန်ကရစ်အုတ်ထုတ်လုပ်သည့် လုပ်ငန်းများတွင် သဲအစားထိုးအနေဖြင့် ထည့်သွင်းပါဝင်

လုပ်ဆောင်သွားမည်ဖြစ်၍ တင်သွင်းလာသော ပစ္စည်းများအားလုံး ကောင်းစွာ ပြန်လည်အသုံးပြုသွားနိုင်မည် ဖြစ်ကြောင်း တင်ပြခဲ့ပါသည်။

၁၃။ ညွှန်ကြားရေးမှူးချုပ်မှ နိုင်ငံတော်တွင် တာဝန်သိသော တာဝန်ခံနိုင်သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများ များစွာ လိုအပ်လျက်ရှိပါကြောင်း၊ ၎င်းတို့ဌာနမှလည်း ယင်းကို အားပေးထောက်ခံပါကြောင်း အချို့မှာ ပွဲစားအဆင့်သာ ဖြစ်ကြောင်း၊ ကိုယ်တိုင်လုပ်ငန်းစဉ်များကိုပင် နားမလည်ကြသည်များကို တွေ့ရှိရပါကြောင်း ယင်းသို့ဆိုပါက ထောက်ခံချက်မပေးနိုင်ကြောင်း၊ တာဝန်သိ၊ တာဝန်ခံနိုင်သော ရင်းနှီးမြှုပ်နှံမှုဆိုပါက အလုပ်အကိုင်အခွင့်အလမ်းဖန်တီးပေးနိုင်မည်ဖြစ်၍ ၎င်းတို့မှ အမြဲအားပေးလျက်ရှိပါကြောင်း ပြောကြားခဲ့ပါသည်။

၁၄။ ဒေါက်တာ ဦးခင်မောင်အေးမှ အဆိုပါလုပ်ငန်းအတွက် MIC သို့တင်ပြထားကြောင်း ယင်းအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ တင်သွင်းခွင့်အတွက် ထောက်ခံချက်ပေးရန် လိုအပ်ပါကြောင်း၊ EIA ကိုလည်း အမြန် စတင်လုပ်ကိုင်မည်ဖြစ်ပါကြောင်း၊ MIC နောက်ဆုံးအစည်းအဝေးတွင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ Recovered OCC paper တင်သွင်းခွင့်အား ခွင့်မပြုဟုတားမြစ်ပါက ရေနီစက္ကူစက်လည်ပတ်ရေးလုပ်ငန်းကြီး တစ်ခုလုံးလုပ်ကိုင်၍ မရနိုင်တော့ကြောင်း၊ သို့ပါ၍ အဆိုပြုလွှာအား ပြန်လည်ရုတ်သိမ်းရသည်အထိ ဖြစ်သွားနိုင်ကြောင်း၊ လက်ဝါးကုမ္ပဏီမှာ ယနေ့ အနေအထားအထိ ရောက်ရှိရန်အတွက် ကျပ်ငွေ ဘီလီယံ(၂၀) ခန့် အရှုံးခံ တောင့်ထားခဲ့ရခြင်းဖြစ်ကြောင်း၊ ယခင်က တရုတ်ပြည်မှ ရင်းနှီးမြှုပ်နှံသူများ လာရောက် ပူးပေါင်းရန် အဆိုပြုခဲ့ကြသူများရှိကြောင်း၊ သို့သော် သဘာဝပတ်ဝန်းကျင်ကို တာဝန်သိ၊ တာဝန်ခံမှုအား သံသယ ဖြစ်ဖွယ် ရှိနေလေ့ရှိသည့်အတွက် ပူးပေါင်းလစဉ်၊ လတိုင်း အရှုံးပေါ်နေသော်လည်း ယနေ့အထိ စောင့်ဆိုင်းခဲ့ကြောင်း ယနေ့ ကမ္ဘာ့နံပါတ်(၂) ဖြစ်သော ပတ်ဝန်းကျင်ပျက်စီးမှုမရှိစေရန် တာဝန်ခံနိုင်သော Lee & Mann Paper အုပ်စုနှင့် ပူးပေါင်းဆောင်ရွက်ခွင့် ရရှိပြီဖြစ်ကြောင်း၊ EIA ပါအချက်များအား နိုင်ငံတကာ အဆင့်အတန်းထက် မနိမ့်ကျစေဘဲ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း အာမခံပါကြောင်း၊ ယခု ပူးပေါင်းဆောင်ရွက်မှု မအောင်မြင်ပါက နောက်ထပ်ပိုမို ကောင်းမွန်သော ရင်းနှီးမြှုပ်နှံသူ ရှာဖွေရန် မဖြစ်နိုင်တော့ကြောင်း၊ ရေနီကို စွန့်လွှတ်ရမည့် အခြေအနေ ဖြစ်ကြောင်း မိမိတို့၏ ကုမ္ပဏီ ဆက်လက်ရပ်တည်ရန်ပင် ခက်ခဲသွားမည် ဖြစ်ကြောင်း ဒေဝါလီပင်ခံရနိုင်ကြောင်း တင်ပြခဲ့ပါသည်။

၁၅။ အမှတ် (၃) အကြီးစား စက်မှုလုပ်ငန်းမှ အထွေထွေမန်နေဂျာ ဦးမောင်မောင်သန့်မှ လက်ဝါးကုမ္ပဏီမှ ရေနီကို ပြန်အပ်ပါက ၎င်းတို့လည်း ကြီးစွာ အခက်တွေ့မည်ဖြစ်ကြောင်း ယင်းစက်ရုံအတွက် လစာပေးရန် ဘတ်ဂျက် ပင်တောင်းရန်မလွယ်ကြောင်း ယခုပင်အခြားအရှုံးပေါ်စက်ရုံများနှင့် လုံးပမ်းနေရကြောင်း ဝင်ရောက်ပြောကြား ခဲ့ပါသည်။

၁၆။ ညွှန်ကြားရေးမှူးချုပ်(ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန) မှ ယခုစက္ကူစက်ရုံရေနီမှာ ထူးခြားချက်များရှိကြောင်း၊ လက်ရှိတည်ဆောက်ပြီး လည်ပတ်နိုင်သည့် ကုဗမီတာ(၁၅၀၀၀) ကိုင်တွယ်နိုင်သည့် ရေဆိုးသန့်စင်စက်ရှိကြောင်း၊ စက်မှုဝန်ကြီးဌာနဖက်မှ ဦးမောင်မောင်သန့်တို့မှ ပါဝင်လမ်းညွှန် အကြံဉာဏ်ပေးနိုင်သည့် အခြေအနေဖြစ်ကြောင်း၊ ကိုင်တွယ်နေသူများမှာလည်း နိုင်ငံဝန်ထမ်းများ ဖြစ်နေကြောင်း၊ ရင်းနှီးမြှုပ်နှံသူမှာ လည်း Nobody မဟုတ်ကြောင်း၊ အလုပ်အကိုင်အခွင့်အလမ်းဖန်တီးပေးရာလည်း ရောက်ကြောင်း ရေနီစက်ရုံ ပြန်လည် လည်ပတ်ရေးကို အပြည့်အဝအားပေးပါကြောင်း၊ Support လုပ်ပေးမည်ဖြစ်ပါကြောင်း ပြောကြား၍ အစည်းအဝေးအားရုပ်နားလိုက်ပါသည်။

၁၇။ ဒေါက်တာ ဦးခင်မောင်အေးမှ အားလုံးအား ကျေးဇူးတင်ရှိပါကြောင်း၊ EIA Report အား အမြန်ဆုံးစတင်မည်ဖြစ်ကြောင်း၊ ဥပဒေ၊ နည်းဥပဒေ နှင့် ညွှန်ကြားချက်များအားလုံးအား အပြည့်အဝ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်မထိခိုက်စေရန် တာဝန်ခံပါကြောင်း၊ စွန့်ပစ်ရေ၏ အရည်အသွေးသည် COD <100mg/l, BOD5 <30 mg/l, SS <60mg/l ထက်ပိုမိုကောင်းမွန်စေရမည်ဖြစ်ကြောင်း တာဝန်ယူပါကြောင်း နှုတ်ဆက်ပြောကြားခဲ့ပါသည်၊ ထို့နောက် စာရွက်စာတမ်းများ၊ Video Clip များပါဝင်သော Memory stick များအား စာပေးစာယူဌာနတွင် စနစ်တကျစာအဝင်ပြု၍ တင်ပြခဲ့ပါသည်။

၁၈။ နှုတ်ဆက်ပြန်

လေးစားစွာဖြင့်

Dr. U Khin Maung Aye

Director

Best Eternity Recycle Pulp & Paper Co., Ltd.

Best Eternity Recycle Pulp and Paper Company Limited
ဘက်စ် အီတာနတီ ရီဆိုင်ကယ်လ် ပတ်ဖ် အန် ပေပါ ကုမ္ပဏီ လီမိတက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ရက်စွဲ။ ။ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ (၁၉ ) ရက်။

အကြောင်းအရာ။ ။ စက်မှုဝန်ကြီးဌာနမှ စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းစဉ်ပါရှိသော စက်မှုကုန်ကြမ်းစိုက်ခင်း ဧက ၁၆၀၀၀ တွင် ဝါးစိုက်ပျိုးမည့် စီမံကိန်းကိစ္စ။

၁။ လက်ဝါးကုမ္ပဏီလီမိတက်သည် ဟောင်ကောင်အခြေစိုက် Lee & Mann Paper and Chemical Group ဝင်ဖြစ်သော Jolly Alliance International Limited နှင့် ဖက်စပ်၍ Best Eternity Recycle Pulp & Paper Co., Ltd ထူထောင်၍ စက္ကူစက်ရုံ (ရေနီ) အား တစ်ရက်လျှင် တန်(၁၆၀)ကျ စက္ကူနှင့်ပျော့ဖတ်များ ထုတ်လုပ်ခြင်း၊ တစ်ရက်လျှင် တန် ၂၄၀၀ ကျ Recycle Paper & Pulp စက်ရုံအသစ်တည်ဆောက်၍ (တစ်နှစ်လျှင် တန်ချိန် ရှစ်သိန်းကျော်) ထုတ်လုပ်၍ ၉၀% နှင့်အထက် ပြည်ပသို့ တင်ပို့ရောင်းချသွားရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ စက်မှုဝန်ကြီးဌာန၏ သဘောတူထောက်ခံချက်ဖြင့်တင်ပြခဲ့ပြီး မြန်မာ့ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ Pre-Accessment Meeting (PAT meeting)မှ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ (၆)ရက်နေ့တွင် အဆိုပြုလွှာအား ပဏာမလက်ခံခဲ့ပြီးဖြစ်ပါသည်။

၂။ စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းစဉ်က ချုပ်ဆိုခဲ့သော မူလစာချုပ်အရ ဝါးနှင့်သစ်စိုက်ပျိုးရန် မြေဧက(၁၆၀၀၀)ပါဝင်ခဲ့ပါသည်။ ယင်းမြေဧက(၁၆၀၀၀)ကျော်အား ၂၀၁၉ခုနှစ် အောက်တိုဘာလခန့်တွင် ရေနီစက္ကူစက်ရုံ စတင်လည်ပတ်ပါက အသုံးပြုရန်လိုအပ်လာမည် ဖြစ် ပါသည်။ မူလတန် (၅၀) နှင့် တန်(၈၀) စက်ရုံအား ပြုပြင်မွမ်းမံ၍ တန်(၁၀၀) နှင့် တန်(၆၀) ကျ စက်ရုံများလည်ပတ်ပါက တစ်နေ့လျှင် ဝါးတန်ချိန် (၇၆၀)ခန့်ဖြင့် တစ်နှစ်လျှင်ဝါးတန်ချိန်(၂၅၈,၄၀၀)လိုအပ်မည်ဖြစ်ပါသည်။ ယင်းအတွက် စက်မှုကုန်ကြမ်း ကြသောင်းဝါးနှင့် ဝါးယားများ စိုက်ပျိုးထုတ်လုပ်သွားမည်ဖြစ်ပါသည်။ တစ်နှစ်လျှင် တန်ချိန် (၂၅၈,၄၀၀) တန်ထုတ်လုပ်သွားနိုင်ရန်အတွက် စိုက်ပျိုးရန် မြေဧက(၁၆,၀၀၀)လုံးအား အသုံးပြု၍ အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၃။ <u>ဝါးစိုက်ပျိုးထုတ်လုပ်ရေး စီမံချက်</u>

၃.၁။ ဝါးခုတ် တောင်သူများအား အစုအဖွဲ့ဖြင့်လုပ်ငန်းလုပ်ကိုင်နိုင်စေရန် အစုအဖွဲ့များဖွဲ့စည်းပေးသွားမည်ဖြစ်ပါသည်။ အနာဂတ်တွင် ဝါးထုတ်လုပ်ရေး တောင်သူများ သမဝါယမများ ထူထောင်သွားနိုင်စေရန်အားပေးဆောင်ရွက်သွားမည်ဖြစ်ပါသည်။စုစုပေါင်းတောင်သူတစ်ထောင့်ခြောက်ရာခန့်ဖြင့် ပူးပေါင်း ဆောင်ရွက်သွားရန် ရည်ရွယ်ပါသည်။

No. 51/A, Corner of East Race Course Road and Laydaungkan Road, Tamwe Township, Yangon
+95-1-8604609 +95-1- 8604610

၃.၂။ အဆိုပါ ဝါးခုတ်တောင်သူအစုအဖွဲ့များအား လုပ်ငန်းလုပ်ကွက်များ ဝါးခုတ်တောင်သူ အရေ အတွက် ပေါ်မူတည်၍ ချထားပေးသွားပါမည်။

၃.၃။ ဝါးခုတ်တောင်သူများအား ဝါးတစ်ရုံလုံး ခုတ်ရှင်းပစ်ခြင်းမျိုးဟုတ်ဘဲ (၂)နှစ်သက် တမ်းနှင့် အထက်ရှိဝါးများအားရွေးချယ်ခုတ်ယူနိုင်ရေးသင်တန်းများပို့ချသွားမည်။ ဤသို့ ရွေးချယ်ခုတ်ခြင်းဖြင့် ဝါးတောသည်အစဉ်စိမ်းလန်းနေမည်ဖြစ်ပြီး မျှစ်အထွက်ကိုလည်း ကောင်းမွန်စေပြီး ဝါးပင်ခြုံဖြစ်ခြင်းမရှိဘဲ အောက်ခြေရှင်းကာ ဝါးပင် အထွက် ပိုမိုကောင်းမွန်စေမည် ဖြစ်သည့်အပြင် နှစ်စဉ်ဝါးခုတ်ယူနိုင်မည်ဖြစ်သည်။

၃.၄။ ထိုသို့ ဝါးခုတ်ယူစဉ်တွင် တွေ့ရှိရမည့် ပင်ကြားဧရိယာများအား ဝါးပင်ပေါက်များ၊ အခက်ပါ ဝါးဆစ်များ စိုက်ပျိုးသွားရန်ဖြစ်ပါသည်။ ဤသို့ ပင်ကြားစိုက်ပျိုးခြင်းသည် ကုန်ကျစားရိတ် အနည်းဆုံးနှင့်အကောင်းဆုံး စိုက်ပျိုးနည်းဖြစ်ပါသည်။ ယင်းသို့ လုပ်ဆောင်နိုင်ရန်အတွက် တောင်သူအစုအဖွဲ့များအား သင်တန်းများ ပို့ချသွားမည် ဖြစ်ပါသည်။

၃.၅။ ယခုရရှိထားသော စက်မှုကုန်ကြမ်းစိုက်ခင်းဧရိယာများသည် သဘာဝဝါး ဖြစ်ထွန်းမှု ရှိသော တောတောင်လျှိုအမျိုးအစားဖြစ်သဖြင့် လုပ်ငန်းစတင်သည်နှင့် ဝါးများအား စနစ်တကျ ခုတ်ယူ၍ ပင်ကြားစိုက်ပျိုးခဲ့ပါက တစ်ဧကလျှင် တစ်နှစ်လျှင် ဝါး(၁၆) တန် ခန့် ပျှမ်းမျှထုတ်ယူ ရရှိနိုင်မည် ဖြစ်ပါသည်။

၃.၆။ မူလ ယူကလစ်ပင်စိုက်ပျိုးထားရှိသော ဧရိယာများအား ယူကလစ်ပင်များအား ခုတ်ယူ ၍ အကျိုးရှိစွာ အသုံးချသွားမည်ဖြစ်ပြီး ဝါးများပြန်လည်စိုက်ပျိုးသွားမည် ဖြစ်ပါသည်။ ယင်းသို့ ပြန်လည် စိုက်ပျိုးနိုင်ရန်အတွက်လည်း ဖက်စပ်ကုမ္ပဏီမှ စိုက်စရိတ်ကျခံပေး သွားမည် ဖြစ်ပါသည်။

၃.၇။ ဝါးစိုက်ပျိုးမှုအား တောင်သူအစုအဖွဲ့များဖြင့် တစ်ဦးလျှင် ဝါးစိုက်ဧက(၁၀)ဧက နှုန်း ဖြင့် ဧက (၁၆၀၀၀) အား တစ်ပြိုင်နက်တည်း စိုက်ပျိုးသွားနိုင်ရန် စီမံဆောင်ရွက် သွားမည် ဖြစ်ပါသည်။

၃.၈။ ဝါးစိုက်ပျိုးမှုအား တစ်ပြိုင်နက်ဆောင်ရွက်သွားမည်ဖြစ်သော်လည်း ပထမနှစ်တွင် အောင်မြင်မှု ငါးဆယ်ရာခိုင်နှုန်းခန့်မျှော်လင့်ပြီး၊ ဒုတိယနှစ်တွင် ၁၀၀% ပြီးစီးရန် စီမံကိန်းရေးဆွဲ ဆောင်ရွက် သွားမည်ဖြစ်ပါသည်။

၃.၉။ စက်ရုံ လည်ပတ်မှုကိုလည်း ဝါးစိုက်ပျိုးပြီးစီးမှု ရာခိုင်နှုန်းပေါ်တွင် မူတည်၍ လည်းကောင်း၊ ဝါးဝယ်ယူရရှိမှု ပေါ်မူတည်၍ လည်းကောင်း တန်၁၀၀ နှင့် တန်၆၀ ကျစက်များအား လည်ပတ်သွားမည်ဖြစ်ပါသည်။

၃.၁၀။ ဝါးဝယ်ယူရေးအတွက် ဝယ်စုဆောင်းရေး (၁၀) နေရာအား ဝါးစိုက်ပျိုးသည့် နေရာ ဝန်းကျင်ရှိ ကျေးရွာအစုအဖွဲ့များတွင် တည်ထောင်သွားမည်ဖြစ်ပါသည်။ အဆိုပါ ၁၀ နေရာတိုင်းတွင် ဒီဇယ်ဂျင်နရေတာဖြင့် လည်ပတ်မည့် တစ်နေ့လျှင် ၈ တန်ကျ Bamboo Chipping Plant များ တည်ထောင်သွားမည်ဖြစ်ပြီး ဝါးစိုက်ဝါးခုတ်တောင်သူ များမှ (၂)နှစ်သက်တမ်းအထက်ရှိ ဝါးများအား ခုတ်ယူ၍ အနီးဆုံးဝါးစုဆောင်းရေးနေရာသို့ပို့ဆောင်၍ ဝါးများအား ဖြတ်တောက်ရန် ဖြစ်ပါသည်။ ဖြတ်တောက်ပြီး (၃)ရက် လေဖြင့်အခြောက်ခံထားသော Bamboo Chip များအား ဝါးအခြောက်နှုန်းဖြင့် ချိန်တွယ်၍ ဝယ်ယူသွားမည့်ဖြစ်ပါသည်။ ထို့နောက် ဝါးဖြတ်စများအား စက်ရုံသို့ ပို့ဆောင်သွားမည်ဖြစ်ပါသည်။ (၃)ရက်လေအခြောက်ခံထားသည့် ဝါးဖြတ်စများအား တစ်တန်လျှင် ကျပ် (၃၅၀၀၀) နှုန်းဖြင့် တွက်ချက်ဝယ်ယူရန် အာမခံပေးသွားမည် ဖြစ်ပါသည်။ တစ်နှစ်ပတ်လုံး လုပ်ကိုင်ရမည့် လုပ်ငန်းဖြစ်သည့်အတွက် တောင်သူများအတွက်လည်း တစ်နှစ်ပတ်လုံး လုံလောက်သော ဝင်ငွေရရှိနိုင်စေမည်ဖြစ်ပါသည်။

၃.၁၁။ စက်ရုံ၏ မိုင်ငါးဆယ်ပတ်လည်အတွင်းရှိ ပုဂ္ဂလိကအစုအဖွဲ့လိုက် တည်ထောင် လုပ်ကိုင်လျက်ရှိသော ဝါးစိုက်တောင်သူများနှင့်လည်း ဆက်သွယ်၍ စာချုပ်ချုပ်ဆို၍ ဝါးဖြတ်စများ ဝယ်ယူသွားမည်ဖြစ်သကဲ့သို့ ၄င်းတို့လိုအပ်သော နည်းပညာများကိုလည်း ထောက်ပံ့ပေးသွားမည်ဖြစ်ပါသည်။

၃.၁၂။ ဝါးစိုက်ပျိုးရေးကြီးကြပ်မှုကော်မတီကို လုပ်ငန်းတာဝန်များနှင့်တကွ ပင်မကုမ္ပဏီမှ ဖွဲ့စည်းပေးပါမည်။ ဝါးစိုက်ပျိုးရေးနှင့် သက်ဆိုင်သော သင်တန်းအမျိုးမျိုးပေးနိုင်ရေးအတွက်၎င်း၊ အုပ်ချုပ်ရေးပိုင်းဆိုင်ရာ ကိစ္စရပ်များအတွက်၎င်း၊ စိုက်ကွက်များအတွင်း ယာယီလူနေတဲများ ဆောက်လုပ်ရေး၊ လုပ်ငန်းခွင်သုံးစက်နှင့်စက်ကိရိယာများ အသုံးပြုပုံများကို၎င်း၊ စိုက်ပျိုးရေး ပညာရှင်များနှင့် တရုတ်စကားပြန်များ ငှားရမ်းအသုံးပြုရေးကိစ္စများကို၎င်း၊ အသေးစိတ်စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ တန် (၁၆၀)ကျ စက်ရုံတည်ထောင်ပြီးပါက စက်စွမ်းအားပြည့်တစ်နှစ်ပတ်လုံး အမြဲမပြတ် အလုပ်ဆက်တိုက် လုပ်ကိုင်နိုင်ရန် လိုအပ်သည့် ဝါးဖြတ်စ ကုန်ကြမ်း လုံလုံလောက်လောက် ရရှိရေးအတွက် နောက်ထပ်စိုက်ကေ သုံးသောင်းခွဲခန့် လိုအပ်မည်ဖြစ်ပါသည်။ နောက်ထပ် တည်ဆောက်မည့် တန် (၃၀၀) ကျစက်ရုံအား စက်မှုကုန်ကြမ်းရရှိမှုပေါ်မူတည်၍ ထပ်မံရင်းနှီး မြှုပ်နှံသွားရန် ဖြစ်ပါသည်။ စက်မှုကုန်ကြမ်း

စိုက်ပျိုးမြေ ထပ်မံလျှောက်ထားရန် လိုအပ်ပါသည်။ ယင်းလျှောက်ထားမှုအား မူလစက်မှုကုန်ကြမ်း စိုက်ပျိုးမြေများ အကျိုးရှိစွာ အသုံးချနိုင်မှု ပေါ်မူတည်၍ လျှောက်ထားမည်ဖြစ်ပါသည်။ ဝါးတော ဝါးသောင်းခန့်ကို ကောင်းမွန်စွာ ထိန်းသိမ်း စောင့်ရှောက် ထုတ်လုပ်သွားခြင်းဖြင့် အမြဲစိမ်းလန်းနေသော ဝါးတောများ ထိန်းသိမ်းပြီးခြင်း ဖြစ်မည့်အပြင် ဝါးစိုက်၊ ဝါးခုတ်၊ ဝါးဖြတ်တောင်သူ သုံးထောင်ကျော် တည်မြဲသော အလုပ်အကိုင် ထပ်မံရရှိနိုင်မည်ဖြစ်ပါသည်။

၅။ သို့ပါ၍ မြန်မာ့ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိသည်နှင့် ဝါးစိုက်ပျိုးမြေများ တွင် ဝါးခုတ်၊ ဝါးဖြတ်၊ဝါးစိုက်လုပ်ငန်းများအား အမြန်ဆုံးအကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Dr. U Khin Maung Aye
Director
Best Eternity Recycle Pulp & Paper Co., Ltd.

# Best Eternity Recycle Pulp & Paper Co., Ltd

၏

## CSR စီမံချက် အစီအစဉ်များ

၁။ Best Eternity Recycle Pulp & Paper Co., Ltd သည် စက္ကူစက်ရုံ (ရေနီ) တည်ရှိရာ ပဲခူးတိုင်း ဒေသကြီး ရေတာရှည်မြို့နယ် ရေနီမြို့၏ တောင်ဖက် (၃.၅)မိုင်အကွာအဝေးတွင် တည်ရှိပါသည်။ စက္ကူစက်ရုံရေနီအား အဆင့်မြင့်တင်၍ ဝါးပျော့ဖတ်များထုတ်လုပ်၍ (၁၀၀%) နိုင်ငံခြားသို့ တင်ပို့ ရောင်းချ ခြင်း၊ Recycle Old Corrugated Containers (OCC) များတင်သွင်း၍ 50% Wet Pulp Board များ ထုတ်လုပ်၍ ပြည်ပသို့ ၉၀% နှင့် အထက်တင်ပို့ ရောင်းချ သွားမည့်လုပ်ငန်းများ လုပ်ကိုင်သွား မည်ဖြစ် ပါသည်။ ယင်းသို့လုပ်ကိုင်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိအောင်သတ်မှတ်ထားသည့် စံနှုန်းများ၊ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် သီးခြားညွှန်ကြားချက် များအတိုင်း အပြည့်အဝ လိုက်နာ ဆောင်ရွက်လျှက် လုပ်ငန်းများတိုးချဲ့ လုပ်ကိုင်သွားရန် ရည်ရွယ်ပါသည်။

၂။ ထိုသို့လုပ်ငန်းများ တိုးချဲ့လုပ်ကိုင်ခြင်းမှ ရရှိလာမည့် အကျိုးအမြတ်များမှ ၂% အား Corporate Social Responsibilites အတွက် အသုံးပြုသွားမည်ဖြစ်ပါသည်။

၃။ အဓိက လုပ်ဆောင်သွားမည့်အချက်များမှာ

၁။ မိမိနှင့် ပူးပေါင်းဆောင်ရွက်လျှက်ရှိသော ဝါးခုတ်တောင်သူများအတွက် ပိုမိုနည်းစနစ်ကျန သော ဝါးခုတ်နည်းစနစ်များ ရရှိရေးအတွက် ပညာပေးခြင်း၊ သင်တန်းများပေးခြင်းတို့ကို နိုင်ငံခြားမှ နည်းပညာရှင်များခေါ်ယူသင်တန်းများပေးခြင်း၊ ကုန်ထုတ်လမ်းများ ပိုမိုကောင်းမွန်အောင်ပြုပြင်ပေးခြင်း ၊စက်ပစ္စည်းအသစ်များပံ့ပိုးပေးခြင်း၊တို့ဆောင်ရွက်သွားမည်။

၂။ တောင်သူများ၏ မိသားစုဝင်များ၏ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ကျန်းမာရေးအသိပညာ ပေးခြင်းလုပ်ငန်းများ ဆောင်ရွက်မည်။

၃။ တောင်သူများ၏ သားသမီးများ ပညာသင်ကြားရေးနှင့်ပက်သက်၍ လိုအပ်သည့် အထောက်အပံ့များ ပေးအပ်သွားမည်။

၄။ ရေတာရှည်မြို့နယ် အတွင်းနှင့် ပတ်ဝန်းကျင်ရှိ သက်ကြီးရွယ်အို စောင့်ရှောက်ရေးဂေဟာ များနှင့် မိဘမဲ့ကလေးများကျောင်းများ၏ လိုအပ်ချက်များကိုလည်း မေးမြန်း၍ လိုအပ်သည့် အကူအညီများ ထောက်ပံပေးသွားမည်။

၅။ အားကစား၊ပညာရေးတို့နှင့် ဆက်နွယ်လျှက် ကျောင်းသားလူငယ်များ ဘက်စုံထူးချွန်သောအနာဂတ်လူငယ်များပိုမိုဖြစ်ထွန်းလာရေးစီမံကိန်းများကိုရန်ပုံငွေ ထည့်ဝင်သွားမည်။

၆။ ဝန်ထမ်းများ၏ မိသားစုဝင်များ၏ ကျန်းမာရေး၊ ပညာရေး၊ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေးတို့ကို လည်း သီးခြားရံပုံငွေထားရှိဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ ကုမ္ပဏီအနေဖြင့် တာဝန်ခံမှု တာဝန်ယူမှုရှိသော စီးပွားရေးလုပ်ငန်းအနေဖြင့် ရပ်တည်သွားမည်ဖြစ်ပြီး သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ရန်ပုံငွေ၊ မြစ်ကျောင်းထိန်းသိမ်းရေး ရန်ပုံငွေ၊ အဆင့်မြင့် ပညာရေးရန်ပုံငွေ၊ ကျန်းမာရေးရန်ပုံငွေ၊ ကလေးသူငယ် စောင့်ရှောက်ရေးနှင့် ဖွံ့ဖြိုးရေး ရန်ပုံငွေ တို့အား သတ်မှတ် အချိုးကျ ရန်ပုံငွေများထည့်ဝင်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Dr. Khin Maung Aye
Director
Best Eternity Recycle Pulp & Paper Co., Ltd.

Best Eternity Recycle Pulp and Paper Company Limited
ဘက်စ် အီတာနတီ ရီဆိုင်ကယ်လ် ပတ်ဖ် အန် ပေပါ ကုမ္ပဏီ လီမိတက်

# စက္ကူစက်ရုံ (ရေနီ)
# ရေတာရှည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီး
# မီးဘေးကာကွယ်ရေးစီမံချက်

**နိဒါန်း**

၁။ စက္ကူစက်ရုံ (ရေနီ) သည် ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ်၊ ရန်ကုန် မန္တလေးကားလမ်းမကြီး မိုင်တိုင်အမှတ် (၂၁၄-၄) မှ (၂၁၆-၅) အတွင်း အနောက် ဘက် (၄)ဖာလုံခန့်အကွာ ပဲခူးရိုးမအခြေမြို့လု ကြိုးဝိုင်း အနီး ခန့်မှန်းခြေ မြေပုံအညွှန်း (ဗွီ-၇၀၅၆၃၁) တွင် တည်ရှိပါသည်။

၂။ လက်ဝါးကုမ္ပဏီသည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ စက္ကူစက်ရုံ(ရေနီ) (မြေ၊ အဆောက်အဦးနှင့် စက်ပစ္စည်းများ အပါအဝင်)အား ၂၀၁၃ ခုနှစ် အောက်တိုဘာလမှ စတင်၍ (၃၀+၅+၅) စနစ်ဖြင့် စာချုပ်ချုပ်ဆို ငှားရမ်းထားပါသည်။ စက္ကူစက်ရုံ(ရေနီ)တွင် မြေ (၂၀၄၇.၉၇) ဧကနှင့် အဆောက်အဦး စုစုပေါင်း (၃၂၉ )လုံး ဝန်ထမ်းအင်အား (၈၀၀)ဦးရှိပါသည်။

၃။ လက်ဝါးကုမ္ပဏီအနေဖြင့် စက္ကူစက်ရုံ(ရေနီ)ပိုင် မြေ(၁၃၄)ဧကနှင့် အဆောက် အဦးများ၊ စက်ပစ္စည်းများ၊ ဝန်ထမ်းများကိုအသုံးပြု၍ စက္ကူနှင့်ပျော့ဖတ် ထုတ်လုပ် ရေး လုပ်ငန်းများကို Lee & Mann Group မှ Jolly Alliance International Limited နှင့် ဖက်စပ်ကုမ္ပဏီ (Best Eternity Recycle Pulp & Paper Co., Ltd) တည်ထောင်၍ လုပ်ကိုင်သွားမည်ဖြစ်ပါသည်။

**ရည်ရွယ်ချက်**

၄။ စက်ရုံအတွင်းရှိ ကုန်ထုတ်အဆောက်အဦးများ၊ ပစ္စည်းသိုလှောင်ရုံများ၊ လူနေအဆောက်အဦးများ၊ ကုန်ထုတ်စက်ကိရိယာများကို မည်သည့်အကြောင်းနှင့်မျှ မီးလောင်မှု မဖြစ်ပွားစေရန်နှင့် မီးလောင်မှု ဖြစ်ပါက အချိန်တိုအတွင်း အမြန်ဆုံး ထိရောက်စွာ မီးငြိမ်းသတ်နိုင်ရန်ဖြစ်ပါသည်။

**လုပ်နည်း**

၅။ အကြမ်းအားဖြင့် အောက်ပါအတိုင်းဆောင်ရွက်ပါမည်။

(က) မီးဘေးအန္တရာယ်ကျရောက်နိုင်သည့် အကြောင်းအရာများအား လေ့လာခြင်း။

(ခ) တည်ဆောက်ရေးကာလအတွင်း မီးဘေးကာကွယ်ရေးဆောင်ရွက်ခြင်း။

(ဂ) ကုန်ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်စဉ် မီးဘေးကာကွယ်ရေးဆောင် ရွက်ခြင်း။

(ဃ) မီးဘေးအန္တ ရာယ်ကျရောက်လျှင် ဆောင်ရွက်ခြင်း။

(င) မီးလောင်ပြီးနောက် ဆောင်ရွက်ခြင်း။

၆။ အောက်ပါအကြောင်းအရာများကြောင့် မီးဘေးအန္တ ရာယ် ဖြစ်ပေါ်နိုင်ပါသည်။

(က) အဖျက်သမားများ၏ အန္တ ရာယ်ကြောင့်ဖြစ်ပေါ်ခြင်း။

(ခ) လျှပ်စစ်မီး သွယ်တန်းမှု ချွတ်ယွင်းချက်ကြောင့် ဖြစ်ပေါ်ခြင်း။

(ဂ) ပေါ့ဆမှုကြောင့်ဖြစ်ပေါ်ခြင်း။

(ဃ) ပတ်ဝန်းကျင်မှ မသမာသူ ရှို့မီး၊ သောင်းကျန်းသူရှို့မီး၊ တောမီးတို့မှ ကူးစက်ခြင်းကြောင့် ဖြစ်ပေါ်ခြင်း။

No. 51/A, Corner of East Race Course Road and Laydaungkan Road, Tamwe Township, Yangon
+95-1-8604609 +95-1- 8604610

**တည်ဆောက်ရေးကာလအတွင်း မီးဘေးကာကွယ်ရေး**

၇။ စက်ရုံစတင်တည်ဆောက်သည့် အချိန်မှာအသုံးပြုသော ယာယီလူနေဆောင် များ၊ စက်ယန္တရားများ၊ စက်သုံးဆီများအား မီးလောင်ဆုံးရှုံးမှုမဖြစ်ပေါ်စေရေး အတွက်လိုအပ်သော မီးဘေးကာကွယ်ရေးပစ္စည်းများ ဖြစ်သည့် မီးကြည့် မျှော်စင်များ၊ မီးဘေးလုံခြုံရေးကင်းတဲများ တည်ဆောက်၍ မီးချိပ်၊ မီးကပ်၊ သဲပုံး၊ မီးလုန့်သံချောင်း များ၊ မီးသတ်ဆေးဘူးများ စသည့် မီးသတ်ပစ္စည်းကိရိယာများကို လိုအပ်သလို ထားရှိပေး သွားပါမည်။ လုံခြုံရေးကင်းသမားအားလည်း မီးငြိမ်းသတ်ရေးအတွက် ကြိုတင်လေ့ကျင့်ထားပေးပြီး စက်ရုံဝင်း အတွင်းရှိ လုပ်သားအင်အားများနှင့် ပူးပေါင်း ဆောက်ရွက်သွားပါမည်။ တည်ဆောက်ရေးကာလအတွင်း အသုံးပြုမည့် ဓါတ်ဆီ၊ ဒီဇယ်ဆီ၊ စက်သုံးဆီများကို စနစ်တကျထားသို ထိန်းသိမ်းနိုင်ရေး စီမံထားပါမည်။ စီမံကိန်းဧရိယာအတွင်းနှင့် အနီးတစ်ဝိုက်တွင် အမှိုက်သရိုက်များ၊ ခြုံနွယ်များအား ရှင်းလင်းထားပါမည်။

**ကုန်ထုတ်လုပ်ငန်းဆောင်ရွက်စဉ် မီးဘေးကြိုတင်ကာကွယ်ရေးဆောင်ရွက်ခြင်း။**

၈။ မီးဘေးကြိုတင်ကာကွယ်ရေးအတွက် အောက်ပါအချက်များကို ကြိုတင် ဆောက်ရွက်ထားပါမည်။

(က) စက်ရုံခြံစည်းရိုး၏ အတွင်းအပြင် (၁၀)ပေ အကျယ်အဝန်းတွင် မီးတား လမ်းများ ဖောက်လုပ်ထား ပါမည်။

(ခ) စက်ရုံပတ်လည် ပေ(၅၀) အကွာတွင် ရေပိုက်ခေါင်းနှင့် ပိုက်ပျော့ (၅၀)ပေ တစ်ခုစီထားရှိပေးပါမည်။

(ဂ) စက်ရုံအတွင်းရှိ မြေအောက်ရေလှောင်ကန်တွင် ရေအပြည့်သိုလှောင်ထား ပြီး တစ်နာရီ ၅၀၀၀ဂါလန် စုပ်ယူနိုင်သည့် ရေတင်စက်တစ်လုံးတပ်ဆင် ထားပါမည်။ မီးသတ်ဦးစီးဌာနနှင့်ညှိနှိုင်း၍ လုံလောက် သော မြေအောက် ရေလှောင်ကန်များ တည်ဆောက်သွားမည်ဖြစ်ပါသည်။

(ဃ) စက်ရုံတွင်းမှ ထွက်ရှိသော ဖြတ်စအလေအလွင့်များ၊ အမှိုက်သရိုက်များ ထားရန် နေရာသတ်မှတ် ထားရှိပြီး နေ့စဉ်အပတ်စဉ် သန့်ရှင်းရေး လုပ်ဆောင် ပေးသွားမည်။

(င) လောင်စာဆီများကို ကွန်ကရစ်ကန်ပြုလုပ်ပြီး ကန်အတွင်း ပီပါဖြင့် ထားရှိမည်ဖြစ်ပါသည်။ လေဝင်လေထွက်ကောင်းအောင်လည်း စီစဉ် ထားမည်ဖြစ်ပါသည်။

(စ) အဆောက်အဦးအတွင်းလိုအပ်သော မီးချိပ်၊ မီးကပ်၊ မီးသတ်ဆေးဘူး၊ သဲကန်၊ ရေတိုင်ကီများ၊ လှေကားစသည်တို့ကို ထားရှိပေးသွားမည် ဖြစ်ပါသည်။

(ဆ) ကုန်ထုတ်စက်ခန်းများ၊ သိုလှောင်ရုံများအတွင်း အရေးပေါ်ထွက်ပေါက်များ သတ်မှတ်ပေးထား ပါမည်။

(ဇ) စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်မသောက်ရ၊ မီးသတိပြု စသည့် မီးသတိပေး ဆိုင်းဘုတ်များကို ရေးသားချိတ်ဆွဲ ထားပါမည်။

(ဈ) လျှပ်စစ်အန္တရာယ် မဖြစ်ပေါ်စေရေးအတွက် လိုအပ်သော စစ်ဆေးမှုများကို အစဉ်အမြဲ ဆောင်ရွက် ခြင်း၊ လိုအပ်ချက်များကို ဖြည့်တင်းတပ်ဆင်လဲ လှယ်ပေးခြင်းများကို ဆောင်ရွက်သွားပါမည်။

(ည) ထရန်စဖော်မာများ တစ်စုံတစ်ရာချို့ယွင်းပေါက်ကွဲမှု မရှိစေရေးအတွက် အလိုအလျောက် ဓါတ်အား ဖြတ်တောက်သည့်စနစ် Breaker System များ Alarm system များတပ်ဆင်ပေးသွားပါမည်။

(ဋ) မီးဘေးကာကွယ်ရေးအတွက် ကျွမ်းကျင်သူများရရှိရေးအတွက် ဝန်ထမ်း များကို အခြေခံမီးသတ် သင်တန်း၊ အဆင့်မြင့် မီးသတ်သင်တန်း များသို့ တက်ရောက်နိုင်အောင်စီစဉ်သွားမည်ဖြစ်ပါသည်။

(၄) မီးဘေးနှင့် အရေးပေါ် ကိစ္စများ ဆောင်ရွက်ရန်အတွက် လုံခြုံရေးဝန်ထမ်း ည(၁၀)ဦး နှင့် တာဝန်ခံ (၃)ဦးတို့ကို အလှည့်ကျ တာဝန်ပေးထားပါမည်။

(၅) လုံခြုံရေးအဖွဲ့၊ မီးငြိမ်းသတ်ရေးအဖွဲ့၊ ပစ္စည်းသယ်ယူရေးအဖွဲ့ ကျန်းမာရေး အဖွဲ့များကို ကြိုတင်ဖွဲ့ထားပါမည်။

<u>မီးဘေးအန္တရာယ်ကျရောက်လျှင် ဆောင်ရွက်ခြင်း</u>

၉ ။ မီးလောင်မှုဖြစ်ပေါ်ပါက ကြိုတင်ဖွဲ့စည်းထားသော မီးငြိမ်းသတ်ရေးအဖွဲ့၊ ပစ္စည်းသယ်ယူရေးအဖွဲ့၊ လုံခြုံရေးအဖွဲ့၊ ကျန်းမာရေးအဖွဲ့များအနေဖြင့် မိမိတို့အားပေးအပ်သော တာဝန်နှင့် ဝတ္တရားများကို တိကျစွာ လိုက်နာ ဆောင်ရွက် သွားရပါမည်။ မီးလောင်စဉ် အဖျက်လုပ်ငန်း လုပ်ဆောင်လိုသူများ၊ သောင်းကျန်းသူများသည် အခွင့်ကောင်းယူကာ အခြားနေရာများကိုပါ ဝင်ရောက် မီးရှို့နိုင်သဖြင့် အလေးထား စောင့်ကြည့်ပါမည်။ မသက်ဆိုင်သူများ၊ စက်ရုံအတွင်းသို့ အတင်း ဝင်ရောက်ကာ အကြမ်းဖက်မှုမှ ကာကွယ်သွားရပါမည်။

<u>မီးလောင်ပြီးနောက်ဆောင်ရွက်ခြင်း။</u>

၁၀။ မီးလောင်ရာနေရာကို အမြန်ဆုံးရှင်းလင်းနိုင်ရန် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရပါမည်။

(က) မီးကြွင်းမီးကျန်များမှ ထပ်မံလောင်ကျွမ်းမှုမရှိအောင်ဆောင်ရွက်ရပါမည်။
(ခ) စက်ရုံပုံမှန်လည်ပတ်ရေးအတွက် အမြန်ဆုံးစစ်ဆေးဆောင်ရွက်ရပါမည်။
(ဂ) မီးဘေးသင့်သူများအား နေရာချထားရေး လုပ်ငန်းများကို ဆောင်ရွက်ပါမည်။
(ဃ) ထိခိုက်ဒဏ်ရာရရှိသူများအား ဆေးဝါးကုသရေးအတွက် ဆောင်ရွက်ပါမည်။
(င) ဆုံးရှုံးမှု စာရင်းဇယားများ ကောက်ယူပြီး သက်ဆိုင်ရာသို့ တင်ပြခြင်း။
(စ) မီးလောင်မှုဖြစ်ပေါ်ရသည့် အကြောင်းရင်းကို ပြန်လည်သုံးသပ်ခြင်း။

<u>အုပ်ချုပ်ရေး</u>

၁၁။ အောက်ပါအချက်များကို ဆောင်ရွက်ထားပါမည်။

(က) စက်ရုံဦးစီးအဖွဲ့၊ ကြီးကြပ်ရေးအဖွဲ့များကို ဖွဲ့စည်းထားပါမည်။
(ခ) မီးဘေးကာကွယ်ရေးအတွက် လိုအပ်ချက်များကို သက်ဆိုင်ရာ မီးသတ်ဦးစီး ဌာနများနှင့် ဆက်သွယ်ပြီး ညွှန်ကြားသည့် အဆိုပြုချက်များကို လိုက်နာ ဆောင်ရွက်ပါမည်။

<u>ဆက်သွယ်ရေး</u>

၁၂။ အောက်ပါအတိုင်း လူကိုယ်တိုင်ဖြစ်စေ၊ ဖုန်းဖြင့်ဖြစ်စေ၊ ဆက်သားစေလွှတ်၍ ဖြစ်စေဆက်သွယ် ဆောင်ရွက်ပါမည်။

(က) တောင်ငူမြို့နယ်၊ မီးသတ်ဦးစီးဌာန ၀၅၄-၂၃၃၀၂ /၂၃၃၀၃။
(ခ) ရေတာရှည်မြို့နယ်၊ မီးသတ်ဦးစီးဌာန။
(ဂ) ပျဉ်းမနားမြို့နယ် မီးသတ်ဦးစီးဌာန။
(ဃ) လယ်ဝေးမြို့နယ် မီးသတ်ဦးစီးဌာန။

No. 51/A, Corner of East Race Course Road and Laydaungkan Road, Tamwe Township, Yangon
+95-1-8604609 +95-1- 8604610

(င) ရေနီ၊ သာဝတ္ထိ၊ မြို့လှ၊ သာဂရ၊ ဆွာမြို့နယ်၊ မီးသတ်ဦးစီးဌာန။
(စ) အုပ်ချုပ်ရေးမှူး စက္ကူစက်ရုံ(ရေနီ) ၀၅၄-၇၅၀၁၀
(ဆ) စက်ရုံမှူး၊ စက္ကူစက်ရုံ(ရေနီ) ၀၅၄-၇၅၀၀၆။
(ဇ) ဒေါက်တာဦးခင်မောင်အေး - ၀၉ ၄၃၈၁၁၁၁၁။

နိဂုံး

၁၃။ မီးလောင်ဆုံးရှုံးမှု မရှိစေရေးအတွက် သက်ဆိုင်ရာ စက်ရုံအကြီးအကဲများ၊ မြို့နယ်၊ ခရိုင်၊ တိုင်း မီးသတ်ဦးစီးဌာနမှူးများ၏ လမ်းညွှန်မှာကြားချက်များကို လိုက်နာ ဆောင်ရွက်သွားပါမည်။

လေးစားစွာဖြင့်

Dr. Khin Maung Aye
Director
Best Eternity Recycle Pulp & Paper Co., Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် (သစ်တော) ၃(၂)/၁၆(ဃ)(၃၁၃၃ /၂၀၁၈)
ရက်စွဲ ၂၀၁၈ ခုနှစ် ၊ ဩဂုတ်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၈-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၂၆/ ၂၀၁၈ (၁၅၃)

၁။ ဟောင်ကောင်ရှိ Lee & Mann Paper Group ၏ ကုမ္ပဏီအခွဲဖြစ်သည့် Jolly Alliance International Limited မှ ၈၀% နှင့် မြန်မာနိုင်ငံမှ Lat War Company Limited မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Best Eternity Recycle Pulp and Paper Company Limited တည်ထောင်ကာ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် စက္ကူစက်ရုံ (ရေနီ)၊ ရေနီမြို့၊ ရေတာရှည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေဧရိယာ ၂၀၅၁.၉၇၀ ဧက (၈,၃၀၄,၀၃၅.၃၁ စတုရန်းမီတာ) အနက်မှ ၁၃၄.၀၀ ဧက (၅၄၂,၂၇၉,၂၄၀ စတုရန်းမီတာ) တွင် စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Best Eternity Recycle Pulp and Paper Company Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် အလုပ်လုပ်ရက်(၁၀)ရက်အတွင်း စာဖြင့်ပြန်ကြားနိုင်ခြင်းမရှိပါက လုပ်ငန်းလျင်မြန်စွာ ဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တယ်လီဖုန်း ၀၁-၆၅၈၁၂၈ ၊ အီးမေးလ် mic.investment2@gmail.com သို့ ကြိုတင်ဆက်သွယ်ပြန်ကြားပေးနိုင်ပါကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပါသဘောထားတောင်းခံလာသည့်အပေါ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနအနေဖြင့် စိစစ်ရာ ကုမ္ပဏီမှ ပျော့ဖတ်စက်ရုံတည်ထောင်ခြင်းလုပ်ငန်းကို သစ်တောဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပြီး၊ ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် နှစ်စဉ်ကုန်ကြမ်းလိုအပ်မှုပမာဏကို တွက်ချက်ပြီး ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်ရန် လိုအပ်ပါကြောင်းနှင့် အဆိုပါလုပ်ငန်းသည် တစ်ရက်လျှင် (၁၃၆၀) တန် ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစားဖြစ်သဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA)

ဆောင်ရွက်ရမည့် စီမံကိန်းအမျိုးအစားဖြစ်ပါသဖြင့် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း အောက်ဖော်ပြပါအတိုင်း သဘောထားကို ပြန်ကြားအပ်ပါသည်-

(က) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅) အရ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ စုံစမ်းစစ်ဆေးခြင်းနှင့် အစီရင်ခံခြင်းပြုလုပ်ရန် ရွေးချယ်ထားသည့် ကျွမ်းကျင်ပုဂ္ဂိုလ်များပါဝင်သော တတိယပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်း၏ အကြောင်းအချက်ကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ အရ အဆိုပါ တတိယအဖွဲ့အစည်းဖြင့် ဆန်းစစ်ခြင်းပြုလုပ်ရန်အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ Terms of Reference (TOR) အပါအဝင် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ အတည်ပြုချက်ရယူရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၆၂ နှင့် ၆၃ ပါအတိုင်း (EIA) အစီရင်ခံစာအားပြင်ဆင်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(ဃ) သက်ဆိုင်ရာ ကဏ္ဍအလိုက် ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့် လမ်းညွှန်ချက်များအတိုင်း လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

၁၄/၈/၂၀၁၈

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ဝင်းဇော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

✓ Best Eternity Recycle Pulp and Paper Company Limited

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ်--------
ရက်စွဲ---------
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
Myanmar Investment Commission

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက-၃/ခ-၀၂၆/၂၀၁၈( ၁၅၄ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၇ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **စက္ကူစက်ရုံ (ရေနီ) အား Lat War Company Limited သို့ ငှားရမ်းခြင်းနှင့်စပ်လျဉ်းသည့် အချက်အလက်များပေးပို့ပေးပါရန် အကြောင်းကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၂ ရက်စွဲပါစာအမှတ်၊ ၁၅-စမ (၂) ၂၀၁၈(၁၃၂၂)

၁။ စက်မှုဝန်ကြီးဌာန၊အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်းပိုင် စက္ကူစက်ရုံ(ရေနီ)ရှိ မြေဧရိယာ ၂၀၅၁.၉၇ ဧကအား Lat War Company Limited မှ ကနဦး ၃၀ နှစ်နှင့် ၅ နှစ် ၂ ကြိမ်ငှားရမ်းခွင့်ရရှိထားပြီး ဟောင်ကောင်ရှိ Lee & Mann Paper Group ၏ ကုမ္ပဏီအခွဲဖြစ်သည့် Jolly Alliance International Limited နှင့်အကျိုးတူပူးပေါင်း၍ Best Eternity Recycle Pulp and Paper Company Limited တည်ထောင်ကာ မြေဧရိယာ ၂၀၅၁.၉၇၀ ဧကအနက်မှ ၁၃၄.၀၀ ဧကတွင် စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်ရန်အတွက် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၂/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ စိစစ်တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ စက္ကူစက်ရုံ (ရေနီ) မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့်သဘောတူစာချုပ်အပေါ် စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း)၊ ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ အကျိုးအမြတ်ခွဲဝေမှု သဘောတူညီချက်စာချုပ် (မူကြမ်း)၊ စက်မှုဝန်ကြီးဌာနမှ သဘောတူခွင့်ပြုထားသည့် ထပ်ဆင့်မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း) ၊ မြေဧရိယာ ၂၀၅၁.၉၇၀ ဧက အတွက် မြေပိုင်ဆိုင်မှုအထောက်အထားများနှင့် သက်သေခံမြေပုံများအား စက်မှုဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ စက်မှုဝန်ကြီးဌာနမှ လိုအပ်သည်များ ဆောင်ရွက်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပြန်လည်တင်ပြရန် အကြောင်းကြား အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း

Best Eternity Recycle Pulp and Paper Company Limited

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊

☎-၀၁-၆၅၈၁၂၈ စာအမှတ်၊မရက-၃/ခ-၀၂၆/၂၀၁၈ ( ၁၅၃ )

🖷-၀၁-၆၅၈၁၄၁ ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၇ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**

**သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်းချက် ။ Best Eternity Recycle Pulp and Paper Company Limited ၏ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၃၁ ရက်စွဲပါစာ

၁။ ဟောင်ကောင်ရှိ Lee & Mann Paper Group ၏ ကုမ္ပဏီအခွဲဖြစ်သည့် Jolly Alliance International Limited မှ ၈၀ % နှင့် မြန်မာနိုင်ငံမှ Lat War Company Limited မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Best Eternity Recycle Pulp and Paper Company Limited တည်ထောင်ကာ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် စက္ကူစက်ရုံ(ရေနီ)၊ ရေနီမြို့၊ ရေတာရှည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေဧရိယာ ၂၀၅၁.၉၇၀ ဧက (၈,၃၀၄,၀၃၅.၃၁ စတုရန်းမီတာ) အနက်မှ ၁၃၄.၀၀ ဧက (၅၄၂,၂၇၉.၂၄၀ စတုရန်းမီတာ) တွင် စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ ကုမ္ပဏီမှတင်ပြလာသည့် အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့်လုပ်ငန်းများစာရင်းတွင် ပါဝင်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ၊ စွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းထားရှိမည့် အစီအစဉ်နှင့် ဓာတုပစ္စည်းများ ထိန်းသိမ်းထားရှိမည့် အစီအစဉ်တို့သည် လုပ်ငန်းနှင့် သင့်လျော်မှု ရှိ-မရှိ၊ ပြည်ပမှစွန့်ပစ်စက္ကူကုန်ကြမ်းပစ္စည်းများတင်သွင်းလာမှုသည် ပတ်ဝန်းကျင်အပေါ်ထိခိုက်မှု ရှိ-မရှိ၊ ပြည်တွင်းကုန်ကြမ်း လုံလောက်မှု ရှိ-မရှိ နှင့် ဝါးစိုက်ပျိုးမှုအစီအစဉ်၊ လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့်စသည့်အချက်များအပေါ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ၂၀၁၈ ခုနှစ် ဩဂုတ်လ ၂၄ ရက်နေ့အတွင်း ပြန်ကြားပေးနိုင်ပါရန် လုပ်ငန်းအဆိုပြုချက် (တစ်) စုံအား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၄။ Best Eternity Recycle Pulp and Paper Company Limited နှင့် ပတ်သက်၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာ ဒေါ်မေသက်ကြိုင် ၊ ၀၉-၄၂၀၁၆၇၀၉၂ ဖြစ်ပါကြောင်း အသိပေးအပ်ပါသည်။

၅။ အလုပ်လုပ်ရက် (၁၀) ရက်အတွင်း စာဖြင့်ပြန်ကြားနိုင်ခြင်းမရှိပါက လုပ်ငန်းလျင်မြန်စွာ ဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် တယ်လီဖုန်း ၀၁-၆၅၈၁၂၈၊ အီးမေးလ် mic.investment2@gmail.com သို့ ကြိုတင်ဆက်သွယ်ပြန်ကြားပေးနိုင်ပါကြောင်း အသိပေးအပ်ပါသည်။

ဥက္ကဋ္ဌ (ကျော်စာ:)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

အဖွဲ့ခေါင်းဆောင်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ One Stop Service

Best Eternity Recycle Pulp and Paper Company Limited

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ (၁၃၂၂)

ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **စက္ကူစက်ရုံ(ရေနီ)တွင် စက္ကူစက်ရုံနှင့် ပျော့ဖတ်စက်ရုံလုပ်ငန်း တိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံပေးပို့ခြင်း**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ် ( ၃ ) အကြီးစားစက်မှုလုပ်ငန်းရှိ စက္ကူစက်ရုံ ( ရေနီ ) မြေဧရိယာ ( ၂၀၅၁.၉၇ ) ကေအား Lat War Co., Ltd. သို့ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် ( ၃၂/ ၂၀၁၃ )ခွင့်ပြုချက်အရ တစ်နှစ်လျှင် ငှားရမ်းခငွေ ကျပ်(၉၅၀.၀၀၀) သန်းဖြင့်လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်(၁၀၂၀/ ၂၀၁၅) အရ မြေ(၁၀၀)ကေပေါ်တွင် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် တစ်နှစ်လျှင် ငှားရမ်းခ အမေရိကန်ဒေါ်လာ(၈၀,၉၃၇)ဖြင့်လည်းကောင်း ၁.၁၀.၂၀၁၃ ရက်နေ့မှ ၃၀.၉.၂၀၄၃ ရက်နေ့အထိ ( ၃၀ + ၅ + ၅ ) နှစ်ဖြင့် ငှားရမ်းခဲ့ပါသည်။

၂။ Lat War Co., Ltd. မှ စက်ရုံအား ၂၀၁၃ ခုနှစ် အောက်တိုဘာလတွင် စတင်ငှားရမ်း၍ တစ်နေ့လျှင် စက္ကူ(၂၅)တန်ဝန်းကျင်သာ ထုတ်လုပ်နိုင်ခဲ့ပြီး ယနေ့အထိ စီးပွားဖြစ်ထုတ်လုပ်နိုင်ခြင်းမရှိသဖြင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းတွင်(၂၅)နှစ်ကျော် အတွေ့အကြုံရှိသည့် Lee & Mann Paper Group ၏ Jolly Alliance International Limited မှ ၈၀% နှင့် Lat War Co., Ltd. မှ ၂၀% အချိုးဖြင့် ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp and Paper Co.,Ltd. ကို တည်ထောင်ပြီး နည်းပညာနှင့် ငွေကြေးရင်းနှီးမြှုပ်နှံမှုများအားလုံးကို Lee & Mann Paper Group မှ စိုက်ထုတ်ခြင်းနှင့် Lat War Co., Ltd. မှ ဝန်ထမ်းစီမံခန့်ခွဲမှုကို တာဝန်ယူခြင်းဖြင့် ပျော့ဖတ်နှင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ဖက်စပ်ကုမ္ပဏီမှ ပျော့ဖတ်နှင့်စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းကို ပထမအဆင့်အနေဖြင့် စက္ကူစက်ရုံ(ရေနီ)ရှိ တန်(၈၀)စက်ရုံအား တန်(၁၀၀)စက်ရုံအဖြစ်လည်းကောင်း၊ တန်(၅၀)စက်ရုံအား တန်(၆၀)စက်ရုံ အဖြစ်လည်းကောင်း စုစုပေါင်း တန်(၁၆၀)ကို ထုတ်လုပ်သွားနိုင်ရန် အကြီးစားပြုပြင်မွမ်းမံ၍ တစ်နှစ်လျှင် ဝါးပျော့ဖတ် တန်ချိန်(၅၂,၈၀၀) ထုတ်လုပ်ပြီး နိုင်ငံခြားသို့ တင်ပို့ရောင်းချသွားမည် ဖြစ်ပါသည်။ တန်(၁၀၀)စက်ရုံကို ၂၀၁၈ ခုနှစ် အောက်တိုဘာလတွင်

စတင်လည်ပတ်နိုင်ရန်ပြင်ဆင်မှုများ လုပ်ဆောင်သွားမည်ဖြစ်ပြီး၊ ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ(၁၃)သန်း ဖြစ်ပါသည်။ ပြုပြင်မွမ်းမံရန် လိုအပ်သည့်စက်ပစ္စည်းများ တင်သွင်းရာတွင် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ရရှိရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လည်း တစ်ပြိုင်တည်း တင်ပြလျှောက်ထားသွားမည် ဖြစ်ပါသည်။

၄။ ထို့အပြင် ဖက်စပ်ကုမ္ပဏီမှ Recycle Paper အသုံးပြု၍ တစ်နေ့လျှင် 50% Wet Paper Pulp တန်ချိန်(၆၀၀)ကျ စက်ရုံ(၄)ရုံကို စက်ရုံမြေလွတ်ပေါ်တွင် စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ(၂၅.၂)သန်း ထပ်မံရင်းနှီးမြှုပ်နှံတည်ဆောက်သွားမည်ဖြစ်ပြီး နိုင်ငံခြားသို့ တင်ပို့ ရောင်းချခြင်းဖြင့် တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ သန်း(၁၄၀) ဝင်ငွေရရှိနိုင်မည်ဖြစ်ကြောင်း၊ ရေဆိုးစွန့်ပစ်မှုအနေဖြင့် Close System ကို အသုံးပြု၍ ရေအသုံးချမှုနည်းပါးရန် ဆောင်ရွက်သွားမည်ဖြစ်ပြီး COD 100 အောက်သို့ လျှော့ချစွန့်ပစ်နိုင်သည်အထိ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကုန်ကြမ်းများအတွက် အမေရိကန်နိုင်ငံမှ AMIX3 အမျိုးအစား Recycle Pulp အား တစ်နှစ်လျှင် တန်(၆၀၀,၀၀၀)ခန့် တင်သွင်းမည်ဖြစ်ပြီး ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလတွင် စက်ရုံလည်ပတ်နိုင်ရေး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြလာပါသည်။

၅။ ဆက်လက်ပြီး ဒုတိယအဆင့်အနေဖြင့် တစ်နေ့လျှင် တန်(၃၀၀)ကျ ဝါးပျော့ဖတ်စက်ရုံအသစ်တစ်ရုံကို ထပ်မံတည်ဆောက်သွားမည်ဖြစ်ပါကြောင်းနှင့် တစ်နေ့လျှင် စုစုပေါင်း တန်(၄၆၀)ကျ ဝါးပျော့ဖတ်စက်ရုံများမှ တစ်နှစ်လျှင် ပျော့ဖတ်တန်ချိန်(၁၅၀,၀၀၀)ခန့် ထုတ်လုပ်ပြီး နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းဖြင့် နှစ်စဉ်နိုင်ငံခြားဝင်ငွေ အမေရိကန်ဒေါ်လာ သန်း(၁၀၀)ခန့် ရရှိလာနိုင်မည်ဖြစ်ပြီး နိုင်ငံတော်သို့လည်း အခွန်ဘဏ္ဍာများ တိုးမြှင့်ထမ်းဆောင်သွားနိုင်မည်ဖြစ်ပါကြောင်း တင်ပြလာပါသည်။

၆။ ဖက်စပ်ကုမ္ပဏီအနေဖြင့် စက္ကူစက်ရုံ(ရေနီ)တွင် တန်(၅၀)နှင့် တန်(၈၀)စက်ရုံများကို အဆင့်မြှင့်တင်၍ အကြီးစားပြုပြင်မွမ်းမံပြီး စက္ကူနှင့်ပျော့ဖတ် တန်(၁၆၀) ထုတ်လုပ်ခြင်း၊ တစ်နေ့လျှင် တန်(၆၀၀)ကျ Recycle Paper Pulp စက်ရုံ(၄)ရုံနှင့် တန်(၃၀၀) ပျော့ဖတ်စက်ရုံ(၁)ရုံတို့ကို ထပ်မံတည်ဆောက်ခြင်းတို့အတွက် မူလငှားရမ်းခအပြင် လုပ်ငန်းစတင်ပြီး ပထမ(၇)နှစ်ကို ဖက်စပ်ကုမ္ပဏီ၏ဝင်ငွေမှ Lat War Co., Ltd. အနေဖြင့် ရရှိမည့် အကျိုးအမြတ်၏ (၁၀%)နှင့် နောက်ပိုင်းနှစ်များကို (၂၀%)အချိုးဖြင့် စက်မှုဝန်ကြီးဌာနသို့ ခွဲဝေပေးခွင့်ပြုနိုင်ပါရန် တင်ပြခဲ့ခြင်းအပေါ် ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ(၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၈)မှ သဘောတူကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ထောက်ခံတင်ပြဆောင်ရွက်သွားရန် ဆုံးဖြတ်ခဲ့ပါသည်။

၇။ သို့ဖြစ်ပါ၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းဆောင်ရွက်လျက်ရှိသည့် Lat War Co., Ltd. မှ Jolly Alliance International Limited နှင့် ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp and Paper Co.,Ltd. ကို တည်ထောင်ပြီး တန်(၅၀)နှင့် တန်(၈၀)စက်ရုံများကို အဆင့်မြှင့်တင်၍ အကြီးစားပြုပြင်မွမ်းမံပြီး စက္ကူနှင့်ပျော့ဖတ် တန်(၁၆၀) ထုတ်လုပ်ခြင်း၊ တစ်နေ့လျှင် တန်(၆၀၀)ကျ Recycle Paper Pulp စက်ရုံ(၄)ရုံနှင့် တန်(၃၀၀)ပျော့ဖတ်စက်ရုံ(၁)ရုံ ထပ်မံတည်ဆောက်ခြင်းတို့အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိနိုင်ရန် ကုမ္ပဏီ၏ အဆိုပြုလွှာပူးတွဲ၍ ထောက်ခံပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈ စာအမှတ်၊ မရက-၃/ခ-၀၂၆/၂၀၁၈( ၁၅၂ )
🖷 -၀၁-၆၅၈၁၃၁ ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၇ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Best Eternity Recycle Pulp and Paper Company Limited တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Best Eternity Recycle Pulp and Paper Company Limited ၏ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၃၁ ရက်စွဲပါစာ

၁။ Best Eternity Recycle Pulp and Paper Company Limited မှ စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအား ၂၀၁၈ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ ၂၂/၂၀၁၈ ကြိမ်မြောက်အစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်-

(က) လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။

(ခ) ဓာတုပစ္စည်းနှင့် ကုန်ကြမ်းသုံးစွဲမည့်အစီအစဉ်၊ ရေဆိုးစွန့်ပစ်မည့်အစီအစဉ်၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်နှင့် နည်းပညာအသုံးပြုမှုအစီအစဉ်များ တင်ပြရန်။

(ဂ) ဖက်စပ်ပါဝင်မည့် Jolly Alliance International Limited ၏ မိခင်ကုမ္ပဏီဖြစ်သည့် Lee & Mann Paper Group ၏ ကုမ္ပဏီဆိုင်ရာအထောက်အထားများနှင့် လုပ်ငန်းအတွေ့အကြုံတို့အား ရှင်းလင်းတင်ပြရန်။

(ဃ) စက်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းနှင့်မော်တော်ယာဉ်စာရင်းအား ပြည်တွင်း/ ပြည်ပ ခွဲခြားဖော်ပြရန်နှင့် အသုံးပြုမည့်စက်ပစ္စည်းတစ်ခုချင်း၏အမျိုးအစားအလိုက် ပါဝင်သောအစိတ်အပိုင်းများအား အသေးစိတ်ဖော်ပြရန်။

(င) စွန့်ပစ်စက္ကူကုန်ကြမ်းတင်သွင်းမှုနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ထောက်ခံချက်ရယူဆောင်ရွက်ရန်။

၂။ သို့ဖြစ်ပါ၍ အထက်အပိုဒ်-၁ ပါဆုံးဖြတ်ချက်နှင့်အညီ လိုအပ်သည်များ ဆောင်ရွက်ပြီး ပြန်လည် တင်ပြပေးရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်
(သန့်စင်လွင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

**Best Eternity Recycle Pulp and Paper Company Limited**
**စက္ကူစက်ရုံ(ရေနီ)၊ ရေနီမြို့၊ ရေတာရှည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီး**
မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

Best Eternity (PAT Decision)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၃၇-စမ ( ၁ ) ၂၀၁၈ (၂၂၂၇)
ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၁၃ ရက်

အကြောင်းအရာ။ စက္ကူစက်ရုံ(ရေနီ)ရှိ ပျော့ဖတ်စက်ရုံအား အကြီးစားပြုပြင်မွမ်းမံ၍ လုပ်ငန်း **တိုးချဲ့ဆောင်ရွက်ခွင့်ပြုရေးကိစ္စ**

ရည် ညွှန်း ချက်။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၏ ၂၅.၆.၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၁၅၀/၆ (၁-နပဓ)၂၀၁၈/ငှားရမ်း/၈၄၉

၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ်(၁၇/၂၀၁၈)၏ ဆုံးဖြတ်ချက်အရ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက္ကူစက်ရုံ(ရေနီ)ကို ငှားရမ်းဆောင်ရွက်လျက်ရှိသည့် Lat War Co., Ltd. မှ Lee & Mann Paper Group ၏ Jolly Alliance International Limited နှင့် ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp and Paper Co., Ltd. အား တည်ထောင်ကာ တန်(၅၀) နှင့်တန်(၈၀)စက်ရုံများကို အဆင့်မြှင့်တင်၍ အကြီးစားပြုပြင်မွမ်းမံပြီး တန်(၁၆၀)ထုတ်လုပ်ရန်၊ တစ်နေ့လျှင် တန်(၆၀၀)ကျ Recycle Paper Pulp စက်ရုံ(၄)ရုံနှင့် တန်(၃၀၀) ပျော့ဖတ်စက်ရုံ (၁)ရုံတို့ကို ထပ်မံတည်ဆောက်ရန်၊ ငှားရမ်းခအဖြစ် မူလငှားရမ်းခအပြင် လုပ်ငန်းစတင်ပြီး ပထမ (၇)နှစ်ကို ဖက်စပ်ကုမ္ပဏီ၏ ဝင်ငွေမှ Lat War Co., Ltd. အနေဖြင့်ရရှိမည့် အကျိုးအမြတ်၏ ၁၀% နှင့် နောက်ပိုင်းနှစ်များကို ၂၀% အချိုးဖြင့် စက်မှုဝန်ကြီးဌာနသို့ ခွဲဝေပေးရန် သဘောတူကြောင်းနှင့် အဆိုပါ ပြန်လည်ပြင်ဆင်ဆောင်ရွက်မှုများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းမြင့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
မိတ္ထူကို

မူဝါဒနှင့်ဥပဒေလုပ်ထုံးလုပ်နည်းစီစစ်ရေးနှင့်လုပ်ငန်းစစ်ဆေးရေးဌာနခွဲ
ဝန်ကြီးရုံး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၉၂ / နပတ( ၈၀၂

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ၊ အောက်တိုဘာလ ၂ ၈ ရက်

အကြောင်းအရာ။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ စက္ကူစက်ရုံ(ရေနီ) အား လက်ဝါးကုမ္ပဏီလီမိတက်သို့ ငှားရမ်းရန်ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန ၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၏ ၁-၁၀-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၁၅၀၆(၁-စမ) ၂၀၁၃ /ရေနီ / ၇၈၆

၁။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ စက္ကူစက်ရုံ(ရေနီ)အား တစ်နှစ်လျှင် ငှားရမ်းခကျပ်သိန်း (၉၅၀) ဖြင့် လက်ဝါးကုမ္ပဏီလီမိတက်သို့ နှစ်(၃၀) ငှားရမ်းရန်အတွက် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် လက်ဝါးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းစာနှင့်အတူပေးပို့လာသောစာချုပ်(မူကြမ်း)ကို ဥပဒေရှုထောင့် မှလေ့လာစိစစ် ပြီးအောက်ပါအတိုင်းတစ်ပေါင်းတည်း သုံးသပ် အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် ၃၌ အငှားချထားမည့် ပစ္စည်းများတွင်စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းကရိယာများ၊ ရုံးသုံးပရိဘောဂများနှင့် အခြားပစ္စည်းများကို ငှားရမ်းမည်ဖြစ်ကြောင်းဖော်ပြထား၍ စာချုပ် ခေါင်းစဉ်ကို "စက္ကူစက်ရုံ(ရေနီ)မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများငှားရမ်းသည့် သဘောတူစာချုပ်" ဟုပြင်ဆင်ပေးလိုက်ပါသည်

သို့၄က်

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂ ၊ ၃နှင့် ၁၃(က) တို့တွင် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းကရိယာများ၊ ရုံးသုံးပရိဘောဂများနှင့် အခြားပစ္စည်းများကို နောက်ဆက်တွဲ (ကမှ ဆ)အထိဖော်ပြထားကြောင်းပါရှိသော်လည်း စာချုပ်(မူကြမ်း)တွင် နောက်ဆက်တွဲ(င) မှာ ပူးတွဲပါရှိလာခြင်းမရှိသဖြင့် ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ငှားရမ်းသည့်စက်ရုံတည်နေရာမြေပုံသည် သက်ဆိုင်ရာမြေစာရင်းဦးစီးဌာနက တရားဝင်ရေးဆွဲသောမြေပုံဖြစ်ရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၃ အောက်ဆုံးရှိစာပိုဒ်၌ "အပိုဒ်(ခ) နှင့်ပတ်သက်၍ ငှားရမ်းမြေ ၂၀၅၁.၉၇၀ဧကတွင် နိုင်ငံတော်သို့ ပြန်လည်အပ်နှံရမည့်မြေဧရိယာချန်လှပ်၍ကျန်ရှိသည့် မြေလွတ်ဧရိယာကိုသာ ဆက်လက်ငှားရမ်းမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ သို့ပါ၍စာချုပ်(မူကြမ်း)၌ အမှန်တကယ် ငှားရမ်းမည့် မြေဧရိယာအတိအကျကိုသာ ဖော်ပြရန်လိုအပ် ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၄ပါ ငှားရမ်းမည့်အချိန်ကာလသည်အပိုဒ် ၅ပါ စာချုပ် သက်တမ်းနှင့် ကိုက်ညီရန် လိုအပ်ပါ သည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၆ အငှားချထားခြင်းခံရသူမှ ရင်းနှီးမြှုပ်နှံရန်ရည်မှန်းချက်၌ 36 MW to 54 MW power Plant တည်ဆောက်ခြင်းဟုဖော်ပြပါရှိပါသည်။ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမ တို့အားသတ်မှတ်ခွင့်ပြုသော လျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ-၃ အရ အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည့် စီးပွားရေးလုပ်ငန်းဖြစ်ရာ ယင်းဥပဒေအရ အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာ ဖြင့်ထုတ်ပြန်သော ခွင့်ပြုမိန့်ရယူရန်လိုအပ်ကြောင်း ဖော်ပြအပ်ပါသည်။

(စ) စာချုပ် (မူကြမ်း) အပိုဒ် ၈၊အပိုဒ်ခွဲ ၈(ၓ) တွင် "စီမံခန့်ခွဲရေးအဖွဲ့"ဟု ဖော်ပြထား၍ "စီမံခန့်ခွဲရေးအဖွဲ့" နှင့်စပ်လျဉ်း၍ပြီး စာချုပ်(မူကြမ်း)၌ ပူးတွဲဖော်ပြထားခြင်းမရှိသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)ငှားရမ်းခပေးချေခြင်း အပိုဒ် ၃၂ တွင် အငှားချထားသူသည် (၃)လအတွက် ငှားရမ်းခကျသင့်ငွေကို (၃)လတစ်ကြိမ်၊ (၃)လပြည့်သည့်လ၏ နောက်ဆုံးအပတ်အတွင်း ပေးသွင်းရမည်ဟု ဖော်ပြထားရာ လုပ်ငန်းဆောင်ရွက်ပြီးမှ ငှားရမ်းခရယူသည့်သဘောဖြစ်နေ၍ ဌာနမှ စဉ်းစားသင့်ပါသည်၊

(ဇ) ထို့ပြင် အဆိုပါအပိုဒ် ၁၂တွင် ငှားရမ်းခပေးသွင်းရန် ပျက်ကွက်ပါက ဒဏ်ကြေးပေးဆောင်ရမည်ဖြစ်ပြီး ဒဏ်ကြေးသည် ငှားရမ်းခ၏ ၅ ရာခိုင်နှုန်း ထက်မပိုစေရဟု ဖော်ပြထားပါသည်။ ငှားရမ်းခပေးသွင်းရန်ပျက်ကွက်မှုအပြင် နောက်ကျပေးသွင်းမှုအပေါ်တွင်လည်း ကာလသတ်မှတ်၍ ဒဏ်ကြေးတွက်ချက်ပေးဆောင်ရန် စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃၊ အပိုဒ်ခွဲ(ခ)တွင် အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်းအသစ်ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား လိုအပ်သလိုဆောင်ရွက်နိုင်ကြောင်း ဖော်ပြထားရာ ဌာနမှ လက်ခံနိုင်ခြင်းရှိ မရှိပြန်လည်စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၁၃၊ အပိုဒ်ခွဲ (ပ)တွင် ဖော်ပြထားသောကိစ္စရပ်များမှာ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်းနှင့် သက်ဆိုင်သဖြင့် ယင်းစည်းကမ်းချက်များအစား အလားတူစာချုပ်များတွင် အသုံးပြုသည့် "ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း"စာပိုဒ်အား မင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဠ) စာချုပ်(မူကြမ်း) စာချုပ်သက်တမ်းတိုးခြင်း အပိုဒ် ၁၉တွင်စာချုပ်သက်တမ်းကုန်ဆုံးခါနီးကျမှသာ စာချုပ်သက်တမ်းတိုးမြှင့်လိုသည့်ကာလ၊ တိုးမြှင့်လိုသည့်အကြိမ်များအား ညှိနှိုင်းသတ်မှတ်ရန်ဖော်ပြထားရာ စာချုပ်မချုပ်ဆိုမီကပင်စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်းသတ်မှတ်ပြီးထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အကျိုးသက်ရောက်သည့်နေ့ အပိုဒ် ၂၄တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ရယူရန် ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် ၂၈ စာချုပ်ရပ်စဲခြင်းခေါင်းစဉ်အောက်သို့ အပိုဒ် ၂၈ပါ "စာချုပ်ဝင် တစ်ဖက်ဖက်မှ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်သို့မဟုတ် လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အကြောင်းကြား စာပေးပို့၍ အကြောင်း ကြားစာပါ(--------)ကာလအတွင်း လိုက်နာမှုမရှိလျှင်"ဟူသောစည်းကမ်း ချက်အား ရွှေ့ပြောင်းဖော်ပြသင့်သည်ဟု သဘောရရှိပါသည်။ ဌာန၏ လိုအပ်ချက်နှင့် ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် မပါရှိသော ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ စာပိုဒ်အား မင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံရယူခြင်းနှင့်စပ်လျဉ်း၍ စာပိုဒ်အား ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ လုပ်ငန်းအာမခံရယူရန်သင့် မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်လက်မှတ်မထိုးမီ ဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ထ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သောတံဆိပ်ခေါင်းခွန်ကို မြေအငှားချထားခြင်းခံရသူများက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းရန် အကြံပြုပါသည်။

၅။ လက်ဝါးကုမ္ပဏီလီမိတက်သည် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသည့်ကုမ္ပဏီ ဟုတ်၊ မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ၊ မရှိ ငွေကြေးအင်အားပြည့်စုံမှုရှိ၊ မရှိ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူများ ဟုတ်၊ မဟုတ် စသည်တို့ကို ကြိုတင် စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ စာချုပ် (မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ (၃) စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(signature) ၁၀/၁၀/၂၀၁၃

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ညွှန်ကြားရေးမှူး )

ဦးဆောင်ညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း



Acer/DKKP/D/ Paper Factory (Yayni) Lettwar Co.,Ltd (9-10-13)

ဖွဲ့ ၂၃၇၂ / ၁၁.၁၂.၁၄

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၁၄ - ၁၆၈ /နပတ (၁၀၅၆)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာလ ၁၈ ရက်

အကြောင်းအရာ။ စက္ကူစက်ရုံ(ရေနီ)အား Lat War Co., Ltd သို့ ငှားရမ်းခဲ့မှုအပေါ် လုပ်ငန်းတိုးချဲ့မှုအတွက် စာချုပ်ချုပ်ဆိုနိုင်ရေး သဘောထားမှတ်ချက်တောင်းခံ ခြင်းကိစ္စ

ရည်ညွှန်းချက်။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၏ ၉-၁၀-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၁၅၀၆ (၁-စမ) ၂၀၁၄/ ၂၃၈/ ၁၃၅၅

၁။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း(ဌာန)သည် ၎င်းလက်အောက်ရှိ စက္ကူစက်ရုံ (ရေနီ)အား Lat War Co., Ltd (ကုမ္ပဏီ) သို့ ၁-၁၀-၂၀၁၃ ရက်နေ့မှစ၍ (၁)နှစ်ငှားရမ်းခ (၉၅၀)ကျပ်သန်းဖြင့် ကာလ(၃၀+၅+၅)နှစ်ငှားရမ်းခဲ့ကြောင်း၊ စာချုပ်အပိုဒ်(၁၁)တွင် ဖော်ပြငှားရမ်းခဲ့သည့် မြေ(၂၀၅၁.၉၇၀)ကေမှ မြေလွတ် (၁၉၀၀)ကေပေါ်တွင် အထည်ချုပ်စက်ရုံနှင့်ဆက်စပ်လုပ်ငန်းများတိုးချဲ့ဆောင်ရွက်နိုင်ရေးအတွက် Lat War Co., Ltd အနေဖြင့် စင်္ကာပူနိုင်ငံရှိ Huachu Investment Pte Ltd နှင့်ဖက်စပ်၍ Asia Golden Glory Development Co., Ltd (AGGD) အား တည်ထောင်ပြီး ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထိုသို့ဆောင်ရွက်ရန်အတွက် မည်သို့စာချုပ်ချုပ်ဆို ဆောင်ရွက်သွားသင့်ကြောင်း အကြံပြုပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းစာနှင့် ၎င်းနှင့်အတူ ပူးတွဲပေးပို့လာသော စာချုပ်(မိတ္တူ)နှင့်စာရွက်စာတမ်းများကို လေ့လာရာ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

(က) စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း(ဌာန)နှင့် လက်ဝါးကုမ္ပဏီလီမိတက် (ကုမ္ပဏီ)တို့သည် စက္ကူစက်ရုံ(ရေနီ)မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအားငှားရမ်းသည့် သဘောတူစာချုပ် (သဘောတူစာချုပ်)ကို ၂၆-၉-၂၀၁၃

ရက်နေ့၌ ချုပ်ဆိုခဲ့ပြီး စာချုပ်၏သက်တမ်းမှာ ၁-၁၀-၂၀၁၃ မှ ၃၀-၉-၂၀၄၃ ရက်နေ့ အထိဖြစ်ကြောင်း၊

(ခ) ရည်ညွှန်းစာအပိုဒ် ၅ ၌ ကုမ္ပဏီသည် စင်္ကာပူနိုင်ငံရှိ Huachu Investment Pte Ltd နှင့်ဖက်စပ်၍ Asia Golden Glory Development Co., Ltd (AGGD) တည်ထောင်ပြီး အမေရိကန်ဒေါ်လာသန်း (၆၀) ရင်းနှီးမြှုပ်နှံ၍ စက်ရုံမြေဧရိယာ (၁၀၀)ဧကတွင် ပထမအဆင့်အနေဖြင့် အထည်ချုပ်စက်ရုံတည်ဆောက်သွားမည်ဖြစ်ပြီး ဒုတိယအဆင့်အနေဖြင့် ဤမြေဧရိယာ(၁၈၀၀)ခန့်တွင် စက္ကူလုပ်ငန်းနှင့်စားသောက်ကုန်လုပ်ငန်းအပေါ် အခြေပြုသည့် စက်မှုလုပ်ငန်းများ အပြင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်းများ ဆက်လက်လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) ရည်ညွှန်းစာအပိုဒ် ၇ ၌ ဖက်စပ်ကုမ္ပဏီ AGGD အား တည်ထောင်၍ အထည်ချုပ်စက်ရုံနှင့် ဆက်စပ်လုပ်ငန်းများတိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန် စက်မှု ဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေး အမှတ်စဉ် (၆/ ၂၀၁၄-၂၀၁၅)မှ သဘောတူခဲ့ပြီး နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့မှုအပေါ် ပူးတွဲပါစာဖြင့် ပြန်ကြားခဲ့သည်ဟု ဖော်ပြထားကြောင်း၊ သို့သော် နိုင်ငံတော်သမ္မတရုံး၏ ပြန်ကြားစာသည် ယခုရည်ညွှန်းစာနှင့်အတူ ပူးတွဲပါရှိလာခြင်းမရှိသည်ကို တွေ့ရှိရကြောင်း၊

(ဃ) စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၏ ၂၆-၈-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၅၀၆ (၁-စမ) ၂၀၁၄/ ၂၃၈/ ၁၂၂၆ ဖြင့် စက္ကူစက်ရုံ(ရေနီ)၌ အထည်ချုပ်စက်ရုံနှင့် ဆက်စပ်လုပ်ငန်းများအား တိုးချဲ့ဆောင်ရွက်မှုအပေါ် နိုင်ငံတော်သမ္မတရုံး၏ လမ်းညွှန်ချက်အား အကြောင်းကြားခဲ့ကြောင်း၊ အဆိုပါအကြောင်းကြားစာ (မိတ္တူ) ၏ အပိုဒ် ၃ ၌ စက္ကူစက်ရုံကို မထိခိုက်စေဘဲ အထည်ချုပ်စက်ရုံဆောက်လုပ်မည့် မြေနေရာအား လိုအပ်သလောက်သာ ဌားရမ်းရန်နှင့် အဆိုပါအကြောင်း

ကြားစာ(မိတ္တူ)၏ အပိုဒ် ၄ ၌ နိုင်ငံတော်သမ္မတရုံးမှ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်မပြုသဖြင့် မိမိစက်ရုံအသုံးပြုရန်အတွက်သာ ဆောင်ရွက်သွားရန် မိန့်မှတ်ချက် ပြုသည်ဟု ဖော်ပြထားကြောင်း၊

(င) သဘောတူစာချုပ်အပိုဒ် ၁၄(စ)၌ ငှားရမ်းခွင့်ရရှိထားသော စက္ကူစက်ရုံ (ရေနီ) မြေနှင့် အဆောက်အဦတွင် ကနဦးတင်ပြထားသော လုပ်ငန်းများအပြင် ဥပဒေနှင့်မငြိစွန်းသည့် အခြားလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်လိုပါက အငှားချထားသူသို့ ညှိနှိုင်းဆောင်ရွက်ခွင့်ရှိကြောင်း၊

(စ) သဘောတူစာချုပ်အပိုဒ် ၁၄(ဆ) ၌ ငှားရမ်းခွင့်ရယူထားသော ရှိပြီးစက်ရုံနှင့် ပစ္စည်းများအား ပေါင်နှံခြင်း၊ရောင်းချခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရဟု ဖော်ပြထားကြောင်း၊

(ဆ) သဘောတူစာချုပ်အပိုဒ် ၂၇ ၌ စာချုပ်ပါစည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်ရရှိမှသာ ပြုလုပ်ရမည်ဟု ဖော်ပြထားကြောင်း၊

(ဇ) သဘောတူစာချုပ်အပိုဒ် ၂၉ ၌ လုပ်ငန်းလိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ညှိနှိုင်းခွင့်ရှိစေရမည်ဟု ဖော်ပြထားကြောင်း။

၃။ အထက်အပိုဒ် ၂ ပါ လေ့လာတွေ့ရှိချက်များအပေါ် အခြေခံ၍ ဥပဒေရှုထောင့်မှ လေ့လာစိစစ်ရာ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

(က) ဌာနနှင့် ကုမ္ပဏီတို့ ၂၆-၉-၂၀၁၃ ရက်နေ့က ချုပ်ဆိုခဲ့သော စက္ကူစက်ရုံ(ရေနီ) ငှားရမ်းသည့် သဘောတူစာချုပ်ပါ အငှားချထားသည့် စက်ရုံနှင့် မြေဧရိယာ အနက် စက်ရုံမြေဧရိယာ(၁၀၀)ကေ၌ ပထမအဆင့်အနေဖြင့် အထည်ချုပ်စက်ရုံ တည်ဆောက်သွားမည်ဖြစ်ပြီး ဒုတိယအဆင့်အနေဖြင့် ကျန်မြေဧရိယာ(၁၈၀၀) ခန့်တွင် စက္ကူလုပ်ငန်းနှင့် စားသောက်ကုန်လုပ်ငန်းအပေါ် အခြေပြုသည့်စက်မှု

လုပ်ငန်းများအပြင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်း လုပ်ငန်းများဆက်လက်လုပ်ကိုင်သွားမည်ဖြစ်ကြောင်း၊

(ခ) အထည်ချုပ်စက်ရုံနှင့် ဆက်စပ်လုပ်ငန်းများတိုးချဲ့ဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်သမ္မတရုံး၏ မိန့်မှတ်ချက်ပြုမှု၌ စက္ကူစက်ရုံကို မထိခိုက်စေဘဲ အထည်ချုပ်စက်ရုံဆောက်လုပ်မည့် မြေနေရာအား လိုသလောက်သာငှားရမ်းရန်ဖြစ်ကြောင်းနှင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်မပြုကြောင်း၊

(ဂ) သဘောတူစာချုပ်အပိုဒ် ၁၄(ဆ)အရ အငှားချထားသည့်စက်ရုံနှင့် မြေကို ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရသဖြင့် ကုမ္ပဏီအနေဖြင့် သဘောတူစာချုပ်ပါ စက်ရုံနှင့်မြေကို ဖက်စပ်ကုမ္ပဏီသို့ တစ်ဆင့်လွှဲပြောင်းပေးခြင်း သို့မဟုတ် အသုံးပြုခွင့်ပေးခြင်းတို့ ပြုလုပ်၍မရကြောင်း၊

(ဃ) ကုမ္ပဏီအနေဖြင့် ငှားရမ်းထားသည့်စက်ရုံနှင့်မြေ၌ ဖက်စပ်ကုမ္ပဏီ AGGD နှင့် အထည်ချုပ်လုပ်ငန်းနှင့် ဆက်စပ်လုပ်ငန်းများ ဆောင်ရွက်မည်ဆိုပါက ဖက်စပ်ကုမ္ပဏီ AGGD သို့ တစ်ဆင့်ငှားရမ်းမှသာလျှင် လုပ်ငန်းဆောင်ရွက်၍ရမည်ဖြစ်ပြီး ထိုသို့တစ်ဆင့်ငှားရမ်းခြင်းကို ဌာနမှလည်း သဘောတူရန် လိုအပ်မည်ဖြစ်ကြောင်း။

၄။ သို့ပါ၍ အထက်ပါတွေ့ရှိချက်များအရ အောက်ပါအတိုင်း အကြံပြုအပ်ပါသည်-

(က) သဘောတူစာချုပ်အပိုဒ် ၁၄ (ဆ)အရ ကုမ္ပဏီသည် ငှားရမ်းထားသော စက်ရုံနှင့်ပစ္စည်းများအား ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို ပြုလုပ်ခွင့်မရှိပါသဖြင့် ကုမ္ပဏီအနေဖြင့် ဖက်စပ်ကုမ္ပဏီ AGGD သို့ တစ်ဆင့်ငှားရမ်းခွင့်ရှိစေရန် သဘောတူစာချုပ်၏ အပိုဒ် ၁၄(ဆ)ကို ပြင်ဆင်ရန် လိုအပ်မည်ဖြစ်ပါသည်။

သို့ပါ၍ ဌာနနှင့် ကုမ္ပဏီတို့သည် ချုပ်ဆိုခဲ့သော သဘောတူစာချုပ်အား ပြင်ဆင်သည့် ပြင်ဆင်ချက်စာချုပ် ချုပ်ဆိုရန် လိုအပ်မည်ဖြစ်ပါ သည်၊

(ခ) အဆိုပါ ပြင်ဆင်ချက်စာချုပ်၌ ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့်လွှဲပြောင်းပေးခြင်း၊အသုံးပြုခွင့်ပေးခြင်းတို့ကိုဌာန၏သဘောတူညီချက်ရရှိမှသာ ဆောင်ရွက်ခွင့်ရှိသည်ဆိုသောအချက်နှင့် ကုမ္ပဏီသည် တစ်ဆင့်ငှားရမ်းခြင်းကို တာဝန်ယူရမည်နှင့် တစ်ဆင့်ငှားရမ်းသူအတွက်ပါတာဝန်ရှိသည်ဆိုသောအချက်တို့ကို ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဂ) ထို့အပြင် လုပ်ငန်းတိုးချဲ့ဆောင်ရွက်ပါက သဘောတူ စာချုပ်အပိုဒ် ၁၁ အရ ငှားရမ်းခအားလုပ်ငန်းအမျိုးအစားအလိုက် ဌာနနှင့် ကုမ္ပဏီတို့နှစ်ဖက်ညှိနှိုင်းသတ်မှတ်ရမည်ဟု ပါရှိသောကြောင့် သဘောတူစာချုပ်ပါ ငှားရမ်းခကို ဌာနအနေဖြင့် ပြင်ဆင်ရန် သင့် မသင့် စဉ်းစားရန်နှင့် ယင်းအချက်ကို ငှားရမ်းခအားနှစ်ဖက်စာချုပ်ဝင်များ ညှိနှိုင်းပြင်ဆင်သတ်မှတ်ပါက ပြင်ဆင်ချက်စာချုပ်၌ ဖော်ပြရန်လိုအပ်မည်ဖြစ်ပါသည်၊

(ဃ) ရည်ညွှန်းစာအပိုဒ် ၆ ၌ ဖက်စပ်ကုမ္ပဏီ AGGD အနေဖြင့် မြေအသုံးချမှုအဖြစ်တစ်စတုရန်းမီတာလျှင် အမေရိကန်(၀.၂) နှင့်အသားတင်အမြတ်ငွေ(၁%) ကို ထပ်ဆောင်းပေးသွင်းမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။အသားတင်အမြတ်ငွေရမှ မြေသုံးချမှုပရီမီယံကြေး (Land Use Premium) ရရှိမည့်သဘောသက်ရောက်နေပါသည်။ Land Use Premium နှင့်မြေငှားရမ်းခမှာ သဘောသဘာဝချင်း မတူညီပါသဖြင့်Land Use Premium အား တိကျစွာသတ်မှတ်သင့်ပါသည်။ Land Use Premium နှင့် စပ်လျဉ်း၍ သဘောတူစာချုပ်၌ ထည့်သွင်းချုပ်ဆိုထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ Land Use Premium အားတိကျစွာ သတ်မှတ်ဖော်ပြချက်အား ဖြည့်စွက်သည့် စည်းကမ်းချက်တစ်ရပ်အနေဖြင့် ပြင်ဆင်ချက်စာချုပ်တွင် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(င) ပြင်ဆင်ချက်စာချုပ်ချုပ်ဆိုပြီးမှသာလျှင် ကုမ္ပဏီအနေဖြင့် အဆိုပါငှားရမ်းထားသည့် မြေမှစက်ရုံနှင့်မြေ သို့မဟုတ် မြေ (၁၉၀၀) ဧကအား ဖက်စပ်ကုမ္ပဏီ AGGD သို့ တစ်ဆင့်ငှားရမ်းသည့်စာချုပ် (Sub-Lease Agreement) စာချုပ်ချုပ်ဆိုသင့်ပါသည်၊

(စ) ရည်ညွှန်းစာအပိုဒ်၅အရ ကုမ္ပဏီသည် စင်္ကာပူနိုင်ငံရှိ Huachu Investment Pte Ltd နှင့်ဖက်စပ်၍ Asia Golden Development Co., Ltd (AGGD) တည်ထောင်ပြီး အမေရိကန်ဒေါ်လာသန်း(၆၀)ရင်းပြီးမြှုပ်နှံ၍ ပထမအဆင့်အနေဖြင့် အထည်ချုပ်စက်ရုံ၊ ဒုတိယအဆင့်အနေဖြင့် စက္ကူလုပ်ငန်းနှင့် စားသောက်ကုန်လုပ်ငန်းအပေါ် အခြေပြုသည့် စက်မှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း သုံးသပ်တွေ့ရှိရပါသည်။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မခွဲ ၁၆ (စ) ၌ "နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီတစ်ခုခုနှင့် ဖက်စပ်လုပ်ငန်း တည်ထောင်လုပ်ကိုင်လိုပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိကြောင်း" ပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ ကုမ္ပဏီအနေဖြင့် စင်္ကာပူနိုင်ငံရှိ Huachu Investment Pte Ltd နှင့် ဖက်စပ်ကုမ္ပဏီထူထောင်ပါက ထိုဥပဒေပုဒ်မ ၁၆(စ) အရ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် လိုအပ်သည်ဟုသဘောရရှိကြောင်း ပြန်ကြားအပ်ပါသည်။

၅။ ဤအကြံပြုချက်ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

၂၀/၁၁/၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

ဦးဆောင်ညွှန်ကြားရေးမှူး

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

စက်မှုဝန်ကြီးဌာန

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

၁၇၇
၃၀-၁-၁၅



ဝင်စာ ၁၉၀
၂၉-၁-၁၅

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၁၉ / နပတ(၈၆ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ ဇန်နဝါရီလ၂၇ ရက်

အကြောင်းအရာ။ **စက္ကူစက်ရုံ(ရေနီ) ၏ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အား ပြင်ဆင်ချုပ်ဆိုမည့် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ**

ရည်ညွှန်းချက် ။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း၏၇-၁-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၁၅၀၆ (၁- စမ) ၂၀၁၅/ ၂၃၈/ ၅၆

၁။ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းအောက်ရှိ စက္ကူစက်ရုံ(ရေနီ)အား လက်ဝါးကုမ္ပဏီလီမိတက်သို့ ငှားရမ်းချုပ်ဆိုခဲ့သည့် ငှားရမ်းရေးသဘောတူစာချုပ်အားပြင်ဆင်ချုပ်ဆိုမည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာ၌ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းအောက်ရှိ စက္ကူစက်ရုံ(ရေနီ) အား လက်ဝါးကုမ္ပဏီလီမိတက်သို့ ၁.၁၀.၂၀၁၃ ရက်နေ့မှစ၍ ၁နှစ်လျှင် ငှားရမ်းခ ကျပ်(၉၅၀)သန်းဖြင့် နှစ်(၃၀) ငှားရမ်းခဲ့ကြောင်း၊ ယခုအခါလက်ဝါးကုမ္ပဏီလီမိတက်သည် စင်္ကာပူနိုင်ငံရှိ Hua Chou Investment Pte. Ltd နှင့် ဖက်စပ်၍ Asia Golden Glory Development Co., Ltd (AGGD) တည်ထောင်၍ ပထမအဆင့်အနေဖြင့် အထည်စက်ရုံတည်ဆောက်ပြီး ဒုတိယအဆင့် အနေဖြင့် စက္ကူလုပ်ငန်းနှင့် စားသောက်ကုန်လုပ်ငန်းအပေါ် အခြေပြုသည့် စက်မှုလုပ်ငန်းများ အပြင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ အဆိုပါလုပ်ငန်းများဆောင်ရွက်ရန် စက်မှုဝန်ကြီးဌာန ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေး

[ဖွဲ့]အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၄-၂၀၁၅)မှသဘောတူခဲ့ကြောင်း၊ သို့ပါ ၍ မူလသဘောတူ[စာ]ချုပ်အပေါ် ပြင်ဆင်ချက်သဘောတူစာချုပ်ချုပ်ဆိုနိုင်ရေးအတွက် သဘောထားမှတ်ချက်ပြန်ကြား[ပေး]ပေးပါရန်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ပေးပို့လာသောပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အားဥပဒေရှုထောင့်မှလေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)နိဒါန်းအပိုဒ်(ဂ)၌လက်ဝါးကုမ္ပဏီလီမိတက်အနေဖြင့် စင်္ကာပူနိုင်ငံရှိ Hua Chou Investment Pte. Ltd နှင့် ဖက်စပ်ကုမ္ပဏီ (AGGD) တည်ထောင်ပြီး ပထမအဆင့်နှင့် ဒုတိယအဆင့်အနေဖြင့် လုပ်ကိုင်ဆောင်ရွက်မည့်လုပ်ငန်းများကို ဖော်ပြထားပါသည်။ တတိယအဆင့်အနေဖြင့် မည်သည့်လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားခြင်း မရှိသည်ကို တွေ့ရှိရပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၁ပါ မူလစာချုပ်၏ အပိုဒ် ၁၁ အားပယ်ဖျက်၍ အစားထိုးပြင်ဆင်မည့် အပိုဒ် ၁၁၊ အပိုဒ်ခွဲ (က) နှင့် (ခ) တို့တွင် "တတိယအဆင့်အနေဖြင့်" ဟူ၍ သုံးနှုန်းထားသော်လည်း မည့်သည့်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ လက်ဝါးကုမ္ပဏီလီမိတက်သည် တတိယအဆင့်အနေဖြင့် မည်သည့်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) နိဒါန်းအပိုဒ်(ဂ)၌ "စာချုပ်ပြင်ဆင်ချုပ်ဆိုရန် လုပ်ငန်းမှသဘောတူခဲ့ပြီး-------" ဟူ၍ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ လုပ်ငန်းသည် မည်သည့်ဌာန/ အဖွဲ့အစည်းကိုဆိုလိုကြောင်း အပြည့်အစုံဖော်ပြရန်လိုအပ်ပါသည်၊

လျှို့ဝှက်

(ဂ) စာချုပ်ပြင်ဆင်ခြင်းနှင့်စပ်လျဉ်း၍ မူလစာချုပ်အပိုဒ် ၂၇ တွင် "စာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်ရရှိမှသာ ပြုလုပ်ရမည်။" ဟုဖော်ပြထားပါသည်။ သို့ပါ၍ စာချုပ်(မူကြမ်း)စာချုပ်ဝင်အပိုဒ်အောက်၌ မူလစာချုပ်အပိုဒ် ၂၇ တွင် ဖော်ပြထားချက်အရ ယခုပြင်ဆင်ချက်သဘောတူ စာချုပ်ချုပ်ဆိုရခြင်းဖြစ်ပါသည်ဆိုသောအချက်အား ဖော်ပြရန်လိုအပ်ပါသည်။

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၁ ပါမူလစာချုပ်၏ အပိုဒ် ၁၁ အား ပယ်ဖျက်၍ အစား ထိုးပြင်ဆင်မည့်အပိုဒ် ၁၁၊ အပိုဒ်ခွဲ (က)၌ "စက်ရုံရှိမြေကွက်ဧရိယာ (၁၉၀၀) ဧက" ဟူ၍ဖော်ပြထားပါသည်။ မူလစာချုပ်အပိုဒ် ၃ အငှားချထားမည့်ပစ္စည်း များ၊ အပိုဒ်ခွဲ (ခ)မြေ(ဧက)၌ စက်ရုံဧရိယာ-၁၆၉.၁၃ ဧက၊ ဝန်ထမ်းအိမ်ရာ- ၁၄၆.၅၀ ဧက၊ ကုန်ကြမ်းစိုက်ခင်းနှင့်မြေလွတ်-၁၇၃၆.၃၄ ဧကဟူ၍ ဖော်ပြ ထားပါသည်။ သို့ပါ၍ မြေလွတ်ဧရိယာနှင့်စပ်လျဉ်း၍ မူလစာချုပ်တွင် ဖော်ပြ ထားသောမြေလွတ်ဧရိယာနှင့်တူညီခြင်းမရှိဟုယူဆ၍ဌာနအနေဖြင့် မြေလွတ် ဧရိယာဖော်ပြမှုအား ပြန်လည်စိစစ်ရန်နှင့် မူလစာချုပ်ပါမြေလွတ်ဧရိယာ ပြောင်းလဲခြင်းဖြစ်ပါက မူလစာချုပ်အပိုဒ်ခွဲ ၃(ခ)အား ပြင်ဆင်ရန် လိုအပ် မည်ဖြစ်ပါသည်။

(င) စာချုပ်(မူကြမ်း) အပိုဒ် ၁ ပါ မူလစာချုပ်၏ အပိုဒ် ၁၁ အား ပယ်ဖျက်၍ အစားထိုးပြင်ဆင်မည့် အပိုဒ် ၁၁၊ အပိုဒ်ခွဲ (က)၌ အကောင်အထည်ဖော် ဆောင်ရွက်ခြင်းကို ပထမအဆင့်၊ ဒုတိယအဆင့်နှင့် တတိယအဆင့်ဟူ၍ အဆင့်(၃)ဆင့်ခွဲ၍ ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရ ပါသည်။ သို့ပါ၍ ထိုသို့အဆင့် ၃ ဆင့်ခွဲ၍ ဆောင်ရွက်ရာ၌ မည်သည့်အဆင့်

သည် မည်သည့်နေ့ရက်၊ အချိန်ကာလမှစတင်ကြောင်း ဖော်ပြထားခြင်း မရှိသဖြင့် အဆင့်လိုက် စတင်အကောင်အထည်ဖော်မည့် နေ့ရက်များဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၁ ပါမူလစာချုပ်၌ အစားထိုးပြင်ဆင်မည့် အပိုဒ် ၁၁၊ အပိုဒ်ခွဲ (ခ)၌ "ဤပြင်ဆင်စာချုပ်၏ အပိုဒ် (ဂ)ပါလုပ်ငန်းများ" ဟု ရည်ညွှန်းဖော်ပြထားပါသည်။ ယခုပြင်ဆင်စာချုပ်၏ အပိုဒ် (ဂ)သည် နိဒါန်း/ ရည်ရွယ်ချက်ကိုဖော်ပြသော စာပိုဒ်ဖြစ်ပြီး စည်းကမ်းချက်အပိုဒ်မဟုတ်သဖြင့် လုပ်ငန်းအဆင့်အလိုက်ဆောင်ရွက်မှုများကို စည်းကမ်းချက် တစ်ရပ်အနေဖြင့် သီးခြားခေါင်းစဉ်ဖြင့် မူလစာချုပ်၌ ဖြည့်စွက်ဖော်ပြရန် လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၁ ပါ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား ခေါင်းစဉ် အောက်ရှိ အပိုဒ် ၁၁ အားပယ်ဖျက်၍ အစားထိုးပြင်ဆင်မည့် အပိုဒ် ၁၁၊ အပိုဒ်ခွဲ(ခ)၌ "အသုံးပြုသောမြေဧကအလိုက် ထပ်ဆောင်းပေးရမည့်ငွေနှင့် စပ်လျဉ်း၍ အသားတင်အမြတ်ငွေပေးဆောင်ရမည်ဖြစ်ကြောင်း ဖော်ပြထား ပါသည်။ သို့ပါ၍ အသားတင်အမြတ်ငွေမရရှိခဲ့ပါက ဌာနမှ ရရန်ရှိသည့်ငွေမှာ ရရှိမည်မဟုတ်သည်ကို ကြိုတင်သတိပြုသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ်၁ပါမူလစာချုပ်၌ အစားထိုးပြင်ဆင်မည့် အပိုဒ် ၁၁၊ အပိုဒ်ခွဲ ၁၁(ဂ)တွင် အသားတင်အမြတ်ငွေ၏ (1%)ကို ပြုစုတင်ပြရမည့် ကာလနှင့်ပေးသွင်းရမည့် ကာလတို့ကို ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အသားတင်အမြတ်ငွေမည်မျှရရှိကြောင်း ဌာနမှသိရှိနိုင်သည့်နည်းလမ်းကို လည်း ဌာနမှစဉ်းစား၍ စာချုပ်တွင်ထည့်သွင်းသင့်ပါသည်။ ထို့ပြင် မူလ စာချုပ်ပါငှားရမ်းခပေးသွင်းခြင်း စည်းကမ်းချက်နှင့်ညီညွတ်မှုရှိစေရေး ဌာနမှ တာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ်၄၌ မူလစာချုပ်တွင် မပါဝင်သော "အာမခံထားရှိခြင်း" ခေါင်းစဉ်အား အပိုဒ် (၃၃) အဖြစ် ထပ်မံဖြည့်စွက်လိုက်သည်ဟုဖော်ပြပြီး "အငှားချထားခြင်းခံရသူသည် တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ်တွင် အပ်နှံထားရှိ၍ -----------" ဟူသော စည်းကမ်းချက်အား ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ မူလစာချုပ်၌ "အာမခံထားရှိခြင်း" ခေါင်းစဉ်မပါဝင်သော်လည်း အပိုဒ် ၃၂ တွင် "လုပ်ငန်းအာမခံသူသည် ၎င်းပိုင်ဆိုင်သော မရွှေ့မပြောင်းနိုင်သောပစ္စည်းများ၏ စာရွက်စာတမ်းများကို အာမခံအဖြစ် လုပ်ငန်းသို့ ပေးပို့ထားရှိရမည်" ဟူ၍ ဖော်ပြထားသဖြင့် ဌာနအနေဖြင့် ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၆ ပါ မူလစာချုပ်၌ ထပ်မံဖြည့်စွက်မည့် အပိုဒ် ၃၇ တွင် ဖော်ပြထားသောစည်းကမ်းချက်သည် မူလစာချုပ်၏ "စာချုပ်ပြင်ဆင်ခြင်း" ခေါင်းစဉ်အောက်တွင် ဖော်ပြထားသောစည်းကမ်းချက်နှင့် တူညီနေသည်ကိုတွေ့ရှိရပါသည်။ ယခုစာချုပ်(မူကြမ်း)မှာ မူလစာချုပ်၏အစိတ်အပိုင်းတစ်ရပ်ဖြစ်သောကြောင့် စည်းကမ်းချက်များ မထပ်စေရေးအတွက် ထပ်မံဖြည့်စွက်မည့် အပိုဒ် ၃၇ အား ပယ်ဖျက်ရန်ဖြစ်ပါသည်၊

(ဋ) လက်ဝါးကုမ္ပဏီလီမိတက် အနေဖြင့် မူလစာချုပ်ပါ မြေနှင့်စက်ရုံအား တစ်ခြားကုမ္ပဏီသို့ တစ်ဆင့်ငှားရမ်းမည်ဆိုပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅ ၌ ရင်းနှီးမြှုပ်နှံသူ၏တာဝန်များအား ပြဋ္ဌာန်းထားပြီး ယင်း၏အပိုဒ်ခွဲ(ဃ)တွင် "ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသော မြေနှင့် အဆောက်အအုံများကို လုပ်ငန်းသက်တမ်းကာလအတွင်း ထိုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊

ပေါင်းနှံ ခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းလုပ်ငန်းနှင့် လုပ်ငန်းလွှဲပြောင်း ခြင်း တို့ကို ကော်မရှင်၏ခွင့်ပြုချက်ဖြင့်ဆောင်ရွက်ခြင်း" ဟု ပြဋ္ဌာန်း ထားသဖြင့် အဆိုပါပြဋ္ဌာန်းချက်နှင့် အညီ ဆောင်ရွက်ရန်လိုအပ်ပါသည်၊

(ဋ) လိုအပ်သောနေရာ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့် အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါ ကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန် အကြံပြု ပါသည်။

၅။ ဤစာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင် ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်( ကိုယ်စား )

29.1.15

( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

ဦးဆောင်ညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း
စက်မှုဝန်ကြီးဌာန

30.1.15

DKPI / MKK / ...

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



M-017/E/ DKKP/ Yayni Paper Mill (Amendment) (14-1-2015).doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ ( ၁၃၂၂ )

ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **စက္ကူစက်ရုံ(ရေနီ)တွင် စက္ကူစက်ရုံနှင့် ပျော့ဖတ်စက်ရုံလုပ်ငန်း တိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံပေးပို့ခြင်း**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ် ( ၃ ) အကြီးစားစက်မှုလုပ်ငန်းရှိ စက္ကူစက်ရုံ ( ရေနီ ) မြေဧရိယာ ( ၂၀၅၁.၉၇ ) ကေအား Lat War Co., Ltd. သို့ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် ( ၃၂/ ၂၀၁၃ )ခွင့်ပြုချက်အရ တစ်နှစ်လျှင် ငှားရမ်းခငွေ ကျပ်(၉၅၀.၀၀၀) သန်းဖြင့် လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်(၁၀၂၀/ ၂၀၁၅) အရ မြေ(၁၀၀)ကေပေါ်တွင် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် တစ်နှစ်လျှင် ငှားရမ်းခ အမေရိကန်ဒေါ်လာ(၈၀,၉၃၇)ဖြင့်လည်းကောင်း ၁.၁၀.၂၀၁၃ ရက်နေ့မှ ၃၀.၉.၂၀၄၃ ရက်နေ့အထိ (၃၀ + ၅ + ၅ ) နှစ်ဖြင့် ငှားရမ်းခဲ့ပါသည်။

၂။ Lat War Co., Ltd. မှ စက်ရုံအား ၂၀၁၃ ခုနှစ် အောက်တိုဘာလတွင် စတင်ငှားရမ်း၍ တစ်နေ့လျှင် စက္ကူ(၂၅)တန်ဝန်းကျင်သာ ထုတ်လုပ်နိုင်ခဲ့ပြီး ယနေ့အထိ စီးပွားဖြစ်ထုတ်လုပ်နိုင်ခြင်းမရှိသဖြင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းတွင်(၂၅)နှစ်ကျော် အတွေ့အကြုံရှိသည့် Lee & Mann Paper Group ၏ Jolly Alliance International Limited မှ ၈၀% နှင့် Lat War Co., Ltd. မှ ၂၀% အချိုးဖြင့် ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp and Paper Co.,Ltd. ကို တည်ထောင်ပြီး နည်းပညာနှင့် ငွေကြေးရင်းနှီးမြှုပ်နှံမှုများအားလုံးကို Lee & Mann Paper Group မှ စိုက်ထုတ်ခြင်းနှင့် Lat War Co., Ltd. မှ ဝန်ထမ်းစီမံခန့်ခွဲမှုကို တာဝန်ယူခြင်းဖြင့် ပျော့ဖတ်နှင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ဖက်စပ်ကုမ္ပဏီမှ ပျော့ဖတ်နှင့်စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းကို ပထမအဆင့်အနေဖြင့် စက္ကူစက်ရုံ(ရေနီ)ရှိ တန်(၈၀)စက်ရုံအား တန်(၁၀၀)စက်ရုံအဖြစ်လည်းကောင်း၊ တန်(၅၀)စက်ရုံအား တန်(၆၀)စက်ရုံ အဖြစ်လည်းကောင်း စုစုပေါင်း တန်(၁၆၀)ကို ထုတ်လုပ်သွားနိုင်ရန် အကြီးစားပြုပြင်မွမ်းမံ၍ တစ်နှစ်လျှင် ဝါးပျော့ဖတ် တန်ချိန်(၅၂,၈၀၀) ထုတ်လုပ်ပြီး နိုင်ငံခြားသို့ တင်ပို့ရောင်းချသွားမည် ဖြစ်ပါသည်။ တန်(၁၀၀)စက်ရုံကို ၂၀၁၈ ခုနှစ် အောက်တိုဘာလတွင်

စတင်လည်ပတ်နိုင်ရန်ပြင်ဆင်မှုများ လုပ်ဆောင်သွားမည်ဖြစ်ပြီး၊ ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ(၁၃)သန်း ဖြစ်ပါသည်။ ပြုပြင်မွမ်းမံရန် လိုအပ်သည့်စက်ပစ္စည်းများ တင်သွင်းရာတွင် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ရရှိရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လည်း တစ်ပြိုင်တည်း တင်ပြလျှောက်ထားသွားမည် ဖြစ်ပါသည်။

၄။ ထို့အပြင် ဖက်စပ်ကုမ္ပဏီမှ Recycle Paper အသုံးပြု၍ တစ်နေ့လျှင် 50% Wet Paper Pulp တန်ချိန်(၆၀၀)ကျ စက်ရုံ(၄)ရုံကို စက်ရုံမြေလွတ်ပေါ်တွင် စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ(၂၅.၂)သန်း ထပ်မံရင်းနှီးမြှုပ်နှံတည်ဆောက်သွားမည်ဖြစ်ပြီး နိုင်ငံခြားသို့ တင်ပို့ ရောင်းချခြင်းဖြင့် တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ သန်း(၁၄၀) ဝင်ငွေရရှိနိုင်မည် ဖြစ်ကြောင်း၊ ရေဆိုးစွန့်ပစ်မှုအနေဖြင့် Close System ကို အသုံးပြု၍ ရေအသုံးချမှုနည်းပါးရန် ဆောင်ရွက်သွားမည်ဖြစ်ပြီး COD 100 အောက်သို့ လျှော့ချစွန့်ပစ်နိုင်သည်အထိ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကုန်ကြမ်းများအတွက် အမေရိကန်နိုင်ငံမှ AMIX3 အမျိုးအစား Recycle Pulp အား တစ်နှစ်လျှင် တန်(၆၀၀,၀၀၀)ခန့် တင်သွင်းမည်ဖြစ်ပြီး ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလတွင် စက်ရုံလည်ပတ်နိုင်ရေး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြလာပါသည်။

၅။ ဆက်လက်ပြီး ဒုတိယအဆင့်အနေဖြင့် တစ်နေ့လျှင် တန်(၃၀၀)ကျ ဝါးပျော့ဖတ်စက်ရုံ အသစ်တစ်ရုံကို ထပ်မံတည်ဆောက်သွားမည်ဖြစ်ပါကြောင်းနှင့် တစ်နေ့လျှင် စုစုပေါင်း တန်(၄၆၀)ကျ ဝါးပျော့ဖတ်စက်ရုံများမှ တစ်နှစ်လျှင် ပျော့ဖတ်တန်ချိန်(၁၅၀,၀၀၀)ခန့် ထုတ်လုပ်ပြီး နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းဖြင့် နှစ်စဉ်နိုင်ငံခြားဝင်ငွေ အမေရိကန်ဒေါ်လာ သန်း(၁၀၀)ခန့် ရရှိလာနိုင်မည်ဖြစ်ပြီး နိုင်ငံတော်သို့လည်း အခွန်ဘဏ္ဍာများ တိုးမြှင့်ထမ်းဆောင်သွားနိုင်မည် ဖြစ်ပါကြောင်း တင်ပြလာပါသည်။

၆။ ဖက်စပ်ကုမ္ပဏီအနေဖြင့် စက္ကူစက်ရုံ(ရေနီ)တွင် တန်(၅၀)နှင့် တန်(၈၀)စက်ရုံများကို အဆင့်မြှင့်တင်၍ အကြီးစားပြုပြင်မွမ်းမံပြီး စက္ကူနှင့်ပျော့ဖတ် တန်(၁၆၀) ထုတ်လုပ်ခြင်း၊ တစ်နေ့လျှင် တန်(၆၀၀)ကျ Recycle Paper Pulp စက်ရုံ(၄)ရုံနှင့် တန်(၃၀၀) ပျော့ဖတ်စက်ရုံ(၁)ရုံတို့ကို ထပ်မံတည်ဆောက်ခြင်းတို့အတွက် မူလငှားရမ်းခအပြင် လုပ်ငန်းစတင်ပြီး ပထမ(၇)နှစ်ကို ဖက်စပ်ကုမ္ပဏီ၏ဝင်ငွေမှ Lat War Co., Ltd. အနေဖြင့် ရရှိမည့် အကျိုးအမြတ်၏ (၁၀%)နှင့် နောက်ပိုင်းနှစ်များကို (၂၀%)အချိုးဖြင့် စက်မှုဝန်ကြီးဌာနသို့ ခွဲဝေပေးခွင့်ပြုနိုင်ပါရန် တင်ပြခဲ့ခြင်းအပေါ် ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ(၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၈)မှ သဘောတူကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ထောက်ခံတင်ပြဆောင်ရွက်သွားရန် ဆုံးဖြတ်ခဲ့ပါသည်။

၇။ သို့ဖြစ်ပါ၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းဆောင်ရွက်လျက်ရှိသည့် Lat War Co., Ltd. မှ Jolly Alliance International Limited နှင့် ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp and Paper Co.,Ltd. ကို တည်ထောင်ပြီး တန်(၅၀)နှင့် တန်(၈၀)စက်ရုံများကို အဆင့်မြှင့်တင်၍ အကြီးစားပြုပြင်မွမ်းမံပြီး စက္ကူနှင့်ပျော့ဖတ် တန်(၁၆၀) ထုတ်လုပ်ခြင်း၊ တစ်နေ့လျှင် တန်(၆၀၀)ကျ Recycle Paper Pulp စက်ရုံ(၄)ရုံနှင့် တန်(၃၀၀)ပျော့ဖတ်စက်ရုံ(၁)ရုံ ထပ်မံတည်ဆောက်ခြင်းတို့အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိနိုင်ရန် ကုမ္ပဏီ၏ အဆိုပြုလွှာပူးတွဲ၍ ထောက်ခံပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

# အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# နှင့်

# လက်ဝါးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော

# စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

# ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၈ ခုနှစ်      လ      ရက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
နှင့်
လက်ဝါးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော
စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်
ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၈ ခုနှစ် လ( )ရက်နေ့တွင် နေပြည်တော်ရှိ ဦးသိန်းဟန်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (နောင်တွင် "အငှားချထားသူ" ဟုခေါ်ဆိုမည် ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ နှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်

နှင့်

ဒေါက်တာခင်မောင်အေး နိုင်ငံသားမှတ်ပုံတင်အမှတ်၊ ၁၂/အလန(နိုင်)၀၀၀၉၀၂ ကိုယ်စားပြုသော လက်ဝါးကုမ္ပဏီလီမိတက်၊ အမှတ်(၉၆)၊ နှင်းဆီကုန်းလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး(နောင်တွင်"အငှားချထားခြင်းခံရသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က အခြားတစ်ဖက်တို့သည် အောက်ပါသဘောတူညီချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူစာချုပ် ချုပ်ဆိုကြပါသည်-

**ရည်ရွယ်ချက်**

(က) ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ်၊ ရေနီမြို့ စက္ကူစက်ရုံ(ရေနီ)ကို "အငှားချထားခြင်းခံရသူ" မှငှားရမ်းပြီး လက်ရှိဘွိုင်လာများအား Gas Burner ပြောင်းလဲ၍ Internal Gas Line သွယ်တန်းခြင်း၊ 36MW ~ 45MW Power Plant တည်ဆောက်ခြင်း၊ နိုင်ငံခြားသားပညာရှင်များခေါ်ယူ၍ စက္ကူနှင့်ပျော့ဖတ်စက်ရုံအားပြုပြင်မွမ်းမံမှုများ ဆောင်ရွက်ခြင်း၊ Replantation Plan စီမံဆောင်ရွက်ခြင်း၊ အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခြင်း လုပ်ငန်းများနှင့် စက္ကူနှင့်ပတ်သက်သော စက်မှုလုပ်ငန်းများအား အထည်အလိပ်နှင့်စက္ကူလုပ်ငန်း အထူးပြုသည့် စက်မှုနယ်မြေ (Industrial Complex) အဖြစ်ထူထောင်၍ ပြည်တွင်းပြည်ပ ရင်းနှီးမြှုပ်နှံသူများကို ဖိတ်ခေါ်ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၈.၁၁.၂၀၁၃)ရက်စွဲပါ ခွင့်ပြုချက်အမှတ်(၃၂/၂၀၁၃)အရ စက်ရုံငှားရမ်းသည့်

သဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ် စက်တင်ဘာလ (၂၆)ရက်နေ့တွင် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် လက်ဝါးကုမ္ပဏီလီမိတက်တို့အကြား နှစ်ဦးသဘောတူ စာချုပ် (နောင်တွင် မူလစာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။) ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့ လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ "စက်ရုံရှိ စက်ရုံပြင်ပမြေ ဧရိယာတွင် အဆောက်အဦများ၊ စက်ရုံများဆောက်လုပ်၍ လုပ်ငန်းတိုးချဲ့ ဆောင်ရွက်ပါက ထပ်မံဆောက်လုပ်အသုံးပြုသည့် မြေအား MIC မှ ခွင့်ပြုသည့် နှုန်းထားအတွင်း ထပ်မံဆောက်လုပ်မည့် လုပ်ငန်းအမျိုးအစားအလိုက် နှစ်ဖက် ညှိနှိုင်း၍ ငှားရမ်းခသတ်မှတ်ရမည် ဖြစ်ပါသည်။ သို့ရာတွင် မူလအစီအမံတွင် ပါဝင် သော Power Plant အတွက်မူ ထပ်မံပေးဆောင်ရန် မလိုအပ်ဟု မှတ်ယူရမည်" ဟု ထည့်သွင်းချုပ်ဆိုထားပါသည်။

(ဂ) စက်မှုဝန်ကြီးဌာန၏ ၂၆.၃.၂၀၁၅ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ်(၁၃၄/၂၀၁၄-၂၀၁၅)အရ အထည်အလိပ်လုပ်ငန်းနှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း တို့ကို ပူးပေါင်း၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း အဖြစ်ပြင်ဆင်ဖွဲ့စည်းခဲ့ပါသည်။

(ဃ) ၎င်းမြေ၊ စက်ရုံပြင်ပမြေဧရိယာနေရာပေါ်တွင် လက်ဝါးကုမ္ပဏီလီမိတက်အနေဖြင့် စင်္ကာပူနိုင်ငံရှိ Hua Chou Investment Pte Ltd. နှင့် ဖက်စပ်ကုမ္ပဏီ(AGGD) Asia Golden Glory Development Co., Ltd. တည်ထောင်ပြီး အမေရိကန် ဒေါ်လာသန်း(၆၀) ရင်းနှီးမြှုပ်နှံ၍ စက်ရုံမြေ(၁၀၀)ကေတွင် ပထမအဆင့်အနေဖြင့် အထည်ချုပ်စက်ရုံ တည်ဆောက်သွားမည်ဖြစ်ပြီး၊ ဒုတိယအဆင့်အနေဖြင့် ကျန်မြေ ဧက(၁၈၀၀)ခန့်တွင် အထည်လုပ်ငန်း၊ စက္ကူလုပ်ငန်းနှင့်စားသောက်ကုန်အပေါ် အခြေပြုသည့် စက်မှုလုပ်ငန်းများအပြင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်း လုပ်ငန်း များ ဆက်လက်လုပ်ကိုင်ဆောင်ရွက်လိုသည့်အတွက် ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၈.၁၂.၂၀၁၅ ရက်နေ့တွင် နှစ်ဦးနှစ်ဖက် ထပ်မံချုပ်ဆိုခဲ့ ပါသည်။

(င) ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၅.၁၀.၂၀၁၅ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် ၊ ၁၀၂၀/၂၀၁၅ နှင့် ၂၄.၁၁.၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေး ကော်မတီအစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၅-၂၀၁၆) တို့မှ ခွင့်ပြုခဲ့ပါသည်။

(စ) ယခုအခါ Lat War Co., Ltd. အနေဖြင့် (20%)၊ DKL Food Singapore Pte Ltd မှ (80%)ဖြင့် အမေရိကန်ဒေါ်လာ(၁၄)သန်း ရင်းနှီးမြှုပ်နှံပြီး DKL Food Myanmar Co., Ltd. ကို ဖက်စပ်ကုမ္ပဏီတည်ထောင်ကာ နိုင်ငံတကာအဆင့်မီ နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဆ) ယခုအခါ မူလစာချုပ်၏ အပိုဒ်(၁၄) အပိုဒ်ခွဲ(ဈ)ပါ "တိုးချဲ့လုပ်ကိုင်မည့် ကုန်ထုတ်လုပ်ငန်းများ၊ ဝန်ဆောင်မှုလုပ်ငန်းများအတွက် လိုအပ်သည့်စက်ပစ္စည်းအသစ်များ တပ်ဆင်ခြင်းနှင့် အဆောက်အဦအသစ်များ ဆောက်လုပ်ရန်ရှိပါက "အငှားချထားသူ"နှင့် ညှိနှိုင်းဆောင်ရွက်မည်" ဟူသော စည်းကမ်းချက်အရလည်းကောင်း၊ ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်၏ အပိုဒ်(၁၂)(က)ပါ စားသောက်ကုန် အပေါ်အခြေပြုသည့် စက်မှုလုပ်ငန်းဖြစ်သော နိုင်ငံတကာအဆင့်မီ နှမ်းရွေး/နှမ်းလှော်ခြင်းလုပ်ငန်းကို မူလစာချုပ်ပါ ငှားရမ်းမြေကေပေါ်ရှိ စက်ရုံမြေ(၅)ကေပေါ်တွင် ဆောင်ရွက်လိုခြင်းကြောင့်လည်းကောင်း ဤဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုရခြင်းဖြစ်ပါသည်။

(ဇ) ဤ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ နှမ်းရွေး/နှမ်းလှော်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (--.--.၂၀၁၈) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ ----/၂၀၁၈ ဖြင့် ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

(ဈ) ဤ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို (--.--.၂၀၁၈) ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး အမှတ်စဉ် (--/၂၀၁၈-၂၀၁၉)မှ သဘောတူပြီး ဖြစ်ပါသည်။

(ည) မူလစာချုပ်အပိုဒ်(၂၈)အရ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်ကို ပြင်ဆင်ချုပ်ဆိုရခြင်းဖြစ်ပါသည်။

သို့ပါ၍ ဤဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို အောက်ပါသဘောတူညီချက်များနှင့်အညီ ချုပ်ဆိုရခြင်းဖြစ်ပါသည်-

၁။ မူလစာချုပ်၏ အငှားချထားမည့်ပစ္စည်းများ အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၃) ပါ အပိုဒ်ခွဲ(ခ) အား အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

(ခ) မြေ(ဧက) - ၂၀၄၇.၉၆၇ ဧက

- စက်ရုံဧရိယာ - ၁၆၉.၁၃ ဧက

(မြေပုံကို နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားပါသည်။)

- ဝန်ထမ်းအိမ်ရာ - ၁၄၆.၅၀ ဧက

- ကုန်ကြမ်းစိုက်ခင်း - ၁၇၃၂.၃၃၇ ဧက

၂။ မူလစာချုပ်၏ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်း အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)ပါ ဝန်ထမ်းများမှာ အခြားဝန်ကြီးဌာနများသို့ ပြောင်းရွှေ့တာဝန်ထမ်းဆောင်သွားကြခြင်းနှင့် ပင်စင်ခံစားကြခြင်းတို့ကြောင့် ဝန်ထမ်းအင်အားလျော့နည်းသွားသဖြင့် ဝန်ထမ်းအင်အားနှင့် လစာနှုန်းထားတို့ကို အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည်-

| စဉ် | လစာနှုန်း | လူဦးရေ |
|---|---|---|
| (က) | ၃၇၄,၀၀၀/- ၄,၀၀၀/- ၃၉၄,၀၀၀/- | ၁ ဦး |
| (ခ) | ၃၀၈,၀၀၀/- ၄,၀၀၀/- ၃၂၈,၀၀၀/- | ၁၃ ဦး |
| (ဂ) | ၂၇၅,၀၀၀/- ၄,၀၀၀/- ၂၉၅,၀၀၀/- | ၃၁ ဦး |
| (ဃ) | ၂၃၄,၀၀၀/- ၂,၀၀၀/- ၂၄၄,၀၀၀/- | ၆၇ ဦး |
| (င) | ၂၁၆,၀၀၀/- ၂,၀၀၀/- ၂၂၆,၀၀၀/- | ၁၀၃ ဦး |
| (စ) | ၁၉၈,၀၀၀/- ၂,၀၀၀/- ၂၀၈,၀၀၀/- | ၁၇၁ ဦး |
| (ဆ) | ၁၈၀,၀၀၀/- ၂,၀၀၀/- ၁၉၀,၀၀၀/- | ၂၆၈ ဦး |
| (ဇ) | ၁၆၂,၀၀၀/- ၂,၀၀၀/- ၁၇၂,၀၀၀/- | ၁၅၇ ဦး |
| | စုစုပေါင်း | ၈၁၁ ဦး |

၃။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂)တွင် အပိုဒ်ခွဲ(ဃ) အဖြစ် အောက်ပါစာပိုဒ်ကို ထပ်မံဖြည့်စွက်ရမည် -

၁၂(ဃ) မူလစာချုပ်ပါ စက်ရုံပိုင်မြေပေါ်တွင် နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦ(၁)လုံးလျှင် (၁၅၅ မီတာ x ၆၆ မီတာ)ရှိ အဆောက်အဦ(၂)လုံး ဆောက်လုပ်ခွင့်ပြုပြီး အဆောက်အဦတစ်လုံးအတွက် တစ်နှစ်လျှင် ငှားရမ်းခ ကျပ်(၂.၅)သန်းနှုန်းဖြင့် အဆောက်အဦ(၂)လုံး ဆောက်လုပ်ပြီးစီး၍ အသုံးပြုချိန်တွင် ကျပ်(၅.၀)သန်းကို ပေးချေရမည်။

၄။ မူလစာချုပ်၏ ငှားရမ်းခပေးချေခြင်း အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၃)တွင် အပိုဒ်ခွဲ(ဃ) အဖြစ် အောက်ပါစာပိုဒ်ကို ထပ်မံဖြည့်စွက်ရမည် -

၁၃(ဃ) "အငှားချထားခြင်းခံရသူ"သည် စက်ရုံငှားရမ်းမြေပေါ်တွင် နှမ်းရွေး၊ နှမ်းလှော်လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုချက်ရရှိထားသော အဆောက်အဦ (၂)လုံးကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုသည့် တည်ဆောက်ရေးကာလအတွင်း အပြီးတည်ဆောက်ရမည်။ တည်ဆောက်ရေးကာလ

ပြည့်ပြီး၍ ယင်းအဆောက်အဦများကို စတင်အသုံးပြုချိန်တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စီးပွားဖြစ်စတင်ဆောင်ရွက်ရန် သတ်မှတ်သည့် နေ့မှစ၍ ငှားရမ်းခ(၁၂)လစာအား ကြိုတင်ပေးသွင်းရမည်ဖြစ်ပြီး ကျန် ငှားရမ်းကာလများအတွက် (၃)လစာ ငှားရမ်းခကျသင့်ငွေကို (၃)လလျှင် တစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည်။ (၃)လပြည့်ပြီး ပေးသွင်းရန် ပျက်ကွက်ပါက နောက်ကျဒဏ်ကြေးအဖြစ် နောက်ကျသည့် ရက်များအတွက် (၁)လနောက်ကျပါက ပေးသွင်းရမည့်သတ်မှတ်ချက် ဖြစ်သော ငှားရမ်းခ(၃)လအတွက် ကျသင့်ငွေ၏(၀.၅%)ကို အခြေခံ၍ တွက်ချက် ပေးဆောင်ရမည်။ နောင်လာမည့်နှစ်များတွင် ငှားရမ်းခအား (၂)နှစ် တစ်ကြိမ် ပြန်လည်သုံးသပ်၍ ငှားရမ်းခတန်ဖိုး၏ (၂%)နှင့်အထက် ကာလ ပေါက်ဈေးပေါ်မူတည်၍ နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၅။ မူလစာချုပ်၏ အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ အစုခေါင်းစဉ် အောက်ရှိ အပိုဒ်(၁၅)ပါအပိုဒ်ခွဲ(ဆ)ကို အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်ဖြစ် ပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအား ၁၈.၁၀.၂၀၁၆ ရက်နေ့၌ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်- ၄၀/၂၀၁၆ ဖြင့် ပြဋ္ဌာန်းခဲ့သော မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ရုပ်သိမ်းပြီးဖြစ်၍ အပိုဒ်ခွဲ(ရ)ကို ပယ်ဖျက်ရမည်-

၁၅(ဆ) ငှားရမ်းခွင့်ရရှိထားသော မြေနေရာအား ပေါင်နှံခြင်း၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း မပြုလုပ်ရ။ ခွင့်ပြုမိန့် ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသော မြေနှင့်အဆောက်အဦများကို လုပ်ငန်းသက်တမ်းကာလအတွင်း ထိုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အခြား ပုဂ္ဂိုလ်တစ်ဦးဦးအား အသုံးပြုခွင့်ပေးခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံ ခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းလုပ်ငန်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ ကို အငှားချထားသူ၏ သဘောတူခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်ခွင့်ရှိပြီး အငှားချထားခြင်းခံရသူသည် တစ်ဆင့်ငှားရမ်းခြင်းကိုလည်းကောင်း၊ တစ်ဆင့်ငှားရမ်းသူနှင့် အသုံးပြုခွင့်ပေးခြင်းခံရသူတို့အတွက် လည်း ကောင်း တာဝန်ယူရမည်။ အသစ်တည်ဆောက်မည့် အဆောက်အဦနှင့် စက်ပစ္စည်းများအတွက် လက်ကျန်ကာလအသုံးပြုခွင့်ကို အခြေပြု၍ ပြည်တွင်း၊ ပြည်ပရှိ ဘဏ်၊ ငွေကြေးအဖွဲ့အစည်းများတွင် အငှားချထား ခြင်းခံရသူမှ ငွေချေးခြင်း၊ ပြန်လည်ပေးဆပ်ရန် အာမခံခြင်းတို့ကို ပြုလုပ် နိုင်သော်လည်း ရောင်းချခြင်း မပြုလုပ်ရ။

၆။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်သည် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၇။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက် ရောက်မှု ရှိစေရမည်။

၈။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၉။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀၁၈ ခုနှစ် လ ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| သိန်းဟန်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | ဒေါက်တာခင်မောင်အေး<br>၁၂/အလန(နိုင်)၀၀၀၉၀၂<br>မန်နေဂျင်းဒါရိုက်တာ<br>လက်ဝါးကုမ္ပဏီလီမိတက် |

အသိသက်သေများ

| | |
|---|---|
| ဦးဝင်းအောင်<br>အထွေထွေမန်နေဂျာ<br>စီမံရေးဌာန<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | ဦးသင်းမောင်အေး<br>၁၂/အလန(နိုင်)၀၀၀၉၀၄<br>အမှတ်(၉၆)၊ နှင်းဆီကုန်းလမ်း<br>အလုံမြို့နယ်၊<br>ရန်ကုန်တိုင်းဒေသကြီး။ |

ဦးတင်မောင်မြင့်
အထွေထွေမန်နေဂျာ
အရည်အသွေးထိန်းသိမ်းရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဒေါ်မေထက်သူ
၁၂/ပဘတ(နိုင်)၀၂၉၉၀၉
အမှတ်(၁၅၃)၊ ၃၁ လမ်း၊
ပန်းဘဲတန်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ဒေါ်ခင်ခင်ချို
အထွေထွေမန်နေဂျာ
ဘဏ္ဍာရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးကျော်ဟန်
အထွေထွေမန်နေဂျာ
ထုတ်လုပ်ရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးအောင်မျိုးမင်း
အထွေထွေမန်နေဂျာ
ရောင်းချဖြန့်ဖြူးရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးအောင်ကျော်မိုး
အထွေထွေမန်နေဂျာ
အုပ်ချုပ်ရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးမောင်မောင်သန့်
ဒုတိယအထွေထွေမန်နေဂျာ
နည်းပညာဖွံ့ဖြိုးရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ (၁၃၂၆)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၂ ရက်

အကြောင်းအရာ။ ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၆.၇.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ၂(၅) ၃ - ၆၇/ နပတ(၇၂၁) (မိတ္တူပူးတွဲလျက်)

၁။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက္ကူစက်ရုံ(ရေနီ)တွင် နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် Lat War Co.,Ltd. နှင့်ချုပ်ဆိုမည့် ဒုတိယအကြိမ် ပြင်ဆင် ချက် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်နှင့် အကြံပြုချက်များ ပြန်ကြားပေးနိုင်ပါရန် တောင်းခံခဲ့ခြင်းနှင့်စပ်လျဉ်း၍ ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ကြောင်း ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားလာမှုအား ပြည်ထောင်စုဝန်ကြီးမှ အောက်ပါအတိုင်း မိန့်မှတ်ချက်ပြုခဲ့ပါသည်-

- ပြင်ဆင်၍ ထပ်မံတင်ပြရန်။

၂။ သို့ပါ၍ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်များအတိုင်း ပြင်ဆင်ပြုစုပြီး ဝန်ကြီးရုံးသို့ ဆောလျင်စွာ တင်ပြရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းမြင့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

[...]းဆောင်ညွှန်ကြားရေးမှူး
[...]မှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂ (၅) ၃ - ၆၇ / နပတ ( ၇၂၁ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

သို့

စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ကိစ္စ။

ရည်ညွှန်းချက် ။ စက်မှုဝန်ကြီးဌာန၏ ၂၅-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၁၅-စမ (၂) ၂၀၁၈ (၈၇၁)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက္ကူစက်ရုံ(ရေနီ)တွင် နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် Lat War Co., Ltd နှင့် ချုပ်ဆိုမည့် ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပြန်ကြား ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံသော ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာ၌ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းလက်အောက်ရှိ စက္ကူစက်ရုံ (ရေနီ)တွင် ဒုတိယအဆင့်အနေဖြင့် ဆောင်ရွက်မည့် စက္ကူလုပ်ငန်းနှင့် စားသောက်ကုန်လုပ်ငန်း အပေါ် အခြေပြုသည့် စက်မှုလုပ်ငန်းများဖြစ်သော နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်း လုပ်ကိုင်ရန် အတွက် Lat War Co., Ltd အနေဖြင့် (၂၀%)၊ DKFL Food Singapore Pte Ltd မှ (၈၀%) ကိုဖြင့် DKL Food Myanmar Co., Ltd (ဖက်စပ်ကုမ္ပဏီ) တည်ထောင်ပြီး မူလစက်ရုံ ဝှားရမ်း မြေတွင် နိုင်ငံတကာအဆင့်မီ နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် အဆောက်အဦ ၂)လုံး ဆောက်လုပ်အသုံးပြုခြင်းအတွက် မူလဝှားရမ်းခအပြင် အဆောက်အဦဆောက်လုပ်ပြီးစီး၍ အသုံးပြုချိန်တွင် တစ်နှစ်လျှင် ဝှားရမ်းခငွေကျပ်(၅.၀၀၀)သိန်း ထပ်မံပေးချေမည့်ကိစ္စကို စက်မှု

ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၈) မှ သဘောတူခွင့်ပြုခဲ့ကြောင်း၊ သို့ပါ၍ မူလသဘောတူစာချုပ်အပေါ် ပြင်ဆင်ချက်သဘောတူစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ပေးပို့လာသော ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် (ဆ) တွင် ယခုအခါ မူလစာချုပ်၏အပိုဒ်(၁၄)၊ အပိုဒ်ခွဲ(ဈ)ပါ စည်းကမ်းချက်အရလည်းကောင်း၊ ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်၏ အပိုဒ် ၁၂(က) ပါ စားသောက်ကုန်အပေါ် အခြေပြုသည့် စက်မှုလုပ်ငန်းဖြစ်သော နိုင်ငံတကာအဆင့်မီ နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်း ဆောင်ရွက်လိုခြင်းကြောင့်လည်းကောင်း၊ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုရခြင်းဖြစ်သည်ဟု ဖော်ပြထားပါသည်။ အဆိုပါ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည့်နေရာမှာ မူလစာချုပ်ပါ ငှားရမ်းသည့်မြေကွက်၏ မည်သည့်နေရာနှင့် မြေကွက်မည်မျှတွင် လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း စာချုပ်စည်းကမ်းချက်တွင် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ခ) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် (ဇ) တွင် ဖော်ပြထားသော နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏမည်မျှဖြစ်ကြောင်း ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဂ) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် (ဇ) နှင့် (ဈ) တို့၌ ရည်ညွှန်းထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ်တို့အား စာချုပ်(မူကြမ်း)တွင် နောက်ဆက်တွဲများအဖြစ် ပူးတွဲဖော်ပြသင့်ပါသည်။

တို့ပြင် အဆိုပါအပိုဒ် (ခ) နှင့် (ဂ) ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြထားရန်လိုအပ်ပါသည်၊

(ဃ) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် (ဂ) အောက်ရှိ စာပိုဒ်၌ မူလစာချုပ်အပိုဒ် ၂၇ အရ မူလစာချုပ်ကို ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ချုပ်ဆိုရခြင်းဖြစ်ကြောင်း ဖော်ပြထားပါသည်။ ၈-၁၂-၂၀၁၅ ရက်နေ့၌ ချုပ်ဆိုသော ပထမအကြိမ် ပြင်ဆင်ချက်စာချုပ်၌ မူလစာချုပ် အပိုဒ် ၁၅ မှ ၃၁ အထိ အပိုဒ် ၁၆ မှ ၃၂ အထိ ပြောင်းလဲပြင်ဆင်ခဲ့သဖြင့် မူလစာချုပ်အပိုဒ် ၂၇ သည် အပိုဒ် ၂၈ သို့ ပြောင်းလဲသွားပါသည်။ သို့ပါ၍ အပိုဒ် ၂၇ အား အပိုဒ် ၂၈ ဟု မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(င) ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၁ တွင် မူလစာချုပ်အပိုဒ် ၃(ခ) ပါ မြေဧရိယာအားအစားထိုးပြင်ဆင်ထားကြောင်းတွေ့ရှိရပါသည်။ မူလစာချုပ်၌ မြေဧရိယာအား ၂၀၅၁၉၇၀ ဧက ဟု ဖော်ပြလျက် စက်ရုံဧရိယာ၊ ဝန်ထမ်းအိမ်ရာ၊ ကုန်ကြမ်းစိုက်ခင်းနှင့် မြေလွတ်တို့၏ ဧရိယာမှာမည်မျှ ဖြစ်ကြောင်း အသေးစိတ်ခွဲခြား၍ ဖော်ပြထားပါသည်။ သို့ပါ၍ ယခုပြင်ဆင်ချက် စာချုပ်(မူကြမ်း)ပါ အစားထိုးပြင်ဆင်မည့် မြေဧရိယာသည် မူလစာချုပ်၌ ဖော်ပြထားသကဲ့သို့ အသေးစိတ်ဖော်ပြရန်လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(စ) ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၂ တွင် မူလစာချုပ်အပိုဒ် ၇ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားများအား မူလစာချုပ်တွင် ဖော်ပြထားသည့် ဝန်ထမ်းအင်အားများထက် လျော့ချထားကြောင်း တွေ့ရှိရပါသည်။ ပြင်ပဝန်ထမ်းလွှဲပြောင်းသည့်ကိစ္စတွင် လျော့နည်းသွားသည့်ဝန်ထမ်းများနှင့် စပ်လျဉ်း၍ ဌာနသို့ ပြန်လည်ပေးပို့ကြောင်း သို့မဟုတ် အငြိမ်းစားယူသွားကြောင်း သို့မဟုတ် လျော့နည်းသွားသော

အဆိုပါ ဝန်ထမ်းများနှင့်စပ်လျဉ်း၍ ဌာနက မည်သို့ဆောင်ရွက်ပေးခဲ့ကြောင်း သို့မဟုတ် ကုမ္ပဏီ(အငှားချထားခြင်းခံရသူ)က မည်သို့ဆောင်ရွက်ကြောင်း တို့ကို ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဆ) ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၃ ပါ မူလစာချုပ်အပိုဒ် ၁၂ တွင် အပိုဒ် (ဃ)အဖြစ် ထပ်မံဖြည့်စွက်မည့် အပိုဒ်၌ဖော်ပြထားသော "ထပ်မံ ဆောက်လုပ်သည့် အဆောက်အဦ ၂ လုံးအတွက် တစ်နှစ်ငှားရမ်းခသည်" နိုင်ငံတော်သမ္မတရုံး၏ ၁-၆-၂၀၁၈ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်- ၄၁/၂၀၁၈ ဖြင့် ထုတ်ပြန်သော "သဘောတူစာချုပ်များ ချုပ်ဆိုရာတွင် လိုက်နာ ဆောင်ရွက်ရမည့် လမ်းညွှန်ချက်များ ထုတ်ပြန်ခြင်း" အပိုဒ် ၇(၃) (၁၀) (ဃဃ) နှင့် အညီ ဒေသအလိုက် ကာလပေါက်ဈေးနှင့် ကိုက်ညီသော မြေငှားရမ်းခနှုန်းထား ဟုတ် မဟုတ် ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဇ) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၃ နှင့် ၄ ပါ မူလစာချုပ်အပိုဒ် ၁၂ နှင့် ၁၃ တွင် ထပ်မံဖြည့်စွက်သည့် အပိုဒ် ၁၂(က) နှင့် ၁၃(ဃ) ၌ "အငှား ချထားခြင်းခံရသူသည် စက်ရုံငှားရမ်းမြေပေါ်တွင် နှမ်းရွေး၊ နှမ်းလှော်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦ(၂)လုံး၊ ဆောက်လုပ်ခြင်းအတွက် အဆောက်အဦဆောက်လုပ် ပြီးစီး၍ စတင်အသုံးပြုချိန်တွင် ငှားရမ်းခ xxxxxxx ပေးသွင်းရမည်"ဟု ဖော်ပြထားပါသည်။ အဆိုပါ ငှားရမ်းခအား အဆောက်အဦဆောက်လုပ်ပြီးစီး၍ စတင်အသုံးပြုချိန်တွင် ရရှိမည်ဖြစ်သဖြင့် အဆိုပါအဆောက်အဦ ၂ လုံးကို ယခု ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ် ချုပ်ဆိုပြီး ရက်ပေါင်းမည်မျှအတွင်း ဆောက်လုပ်ရမည် ဖြစ်ကြောင်း၊ အဆောက်အဦ ၂ လုံးဆောက်လုပ်မည့် ကာလမှာ အချိန်ကာလ မည်မျှဖြစ်ကြောင်းစသည်တို့ကို ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြင်

အဆောက်အဦဆောက်လုပ်ပြီးစီး၍ ရက်ပေါင်းမည်မျှအတွင်း စတင် အသုံးပြုမည် ဆိုသောအချက်အား ဖော်ပြရန်လိုအပ်ပါသည်၊

(ဈ) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၅ အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များခေါင်းစဉ်အောက်ရှိ မူလစာချုပ်အပိုဒ် ၁၅ အပိုဒ်ခွဲ (ရ) ကို အစားထိုးပြင်ဆင်သည့်အပိုဒ်တွင် "အငှားချထားခြင်းခံရသူသည် နိုင်ငံခြားကုမ္ပဏီနှင့် ဖက်စပ်ကုမ္ပဏီထူထောင်၍ လုပ်ငန်းဆောင်ရွက်ပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မခွဲ ၁၆(စ) ၌ နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိကြောင်း ပြဋ္ဌာန်းထားပါသဖြင့် "အငှားချထားခြင်းခံရသူ" နှင့် ×××××× နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရမည်"ဟု ဖော်ပြထားပါသည်။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအား ၁၈-၁၀-၂၀၁၆ ရက်နေ့၌ ပြည်ထောင်စုလွှတ်တော် ဥပဒေအမှတ်- ၄၀/ ၂၀၁၆ ဖြင့် ပြဋ္ဌာန်းခဲ့သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ရုပ်သိမ်းပြီးဖြစ်ပါသည်။ သို့ဖြစ်ပါ၍ အဆိုပါအစားထိုးပြင်ဆင် သည့် အပိုဒ် ၁၅(ရ) အား ထည့်သွင်းဖော်ပြရန် မလိုအပ်သဖြင့် မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်၊

(ည) ယခုပြင်ဆင်ချက် စာချုပ်(မူကြမ်း)ကို မချုပ်ဆိုမီ စာချုပ်(မူကြမ်း) အပိုဒ် (စ)ပါအတိုင်း Lat War Co., Ltd အနေဖြင့် DKL Food Singapore Pte. Ltd ဖြင့် DKL Food Myanmar Co., Ltd ဖြစ်သော ဖက်စပ်ကုမ္ပဏီကို တည်ထောင်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဋ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်သို့ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့်

စိမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနက လိုအပ်သလို ဆောင်ရွက်ရန်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

၅။ Lat War Co., Ltd သည် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည့်အချက်များနှင့်စပ်လျဉ်း၍ စာချုပ်မချုပ်ဆိုမီ ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ ဤ ဒုတိယအကြိမ်ပြင်ဆင်ချက်စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၂၆/၁၂/၁၈

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)

(ဒေါက်တာသီတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ ( ၁၉၁၉ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်

M. 912
25.9.18

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **စက္ကူစက်ရုံ(ရေနီ)ရှိ ပျော့ဖတ်စက်ရုံများအား အကြီးစားပြုပြင်မွမ်းမံ၍ လုပ်ငန်းတိုးချဲ့ဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ အချက်အလက်များပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇.၈.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၃/ ခ-၀၂၆/ ၂၀၁၈(၁၅၄)

၁။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းဆောင်ရွက်လျက်ရှိသည့် Lat War Co.,Ltd. မှ Jolly Alliance International Limited နှင့် ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp and Paper Co.,Ltd. ကို တည်ထောင်ပြီး မြေဧရိယာ(၂,၀၅၁.၉၇၀)ကေအနက် (၁၃၄.၀၀)ကေတွင် မူလစက္ကူစက်ရုံ တစ်ရက်လျှင် တန်(၅၀)နှင့် တန်(၈၀)စက်ရုံများကို အဆင့်မြှင့်တင်၍ အကြီးစားပြုပြင်မွမ်းမံပြီး စက္ကူနှင့်ပျော့ဖတ် တစ်ရက်လျှင် တန်(၁၆၀) ထုတ်လုပ်ခြင်းနှင့် တစ်နေ့လျှင် တန်(၂,၄၀၀)ကျ Recycle Paper Pulp စက်ရုံ(၁)ရုံကို ထပ်မံတည်ဆောက်ပြီး စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်ရန်အတွက် အဆိုပြုချက်ပေးပို့ခဲ့ခြင်းနှင့်စပ်လျဉ်း၍ ၆.၈.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၂/၂၀၁၈ ကြိမ်မြောက်အစည်းအဝေး၏ ဆုံးဖြတ်ချက်နှင့်အညီ စက်မှုဝန်ကြီးဌာနမှ လိုအပ်သည်များ ဆောင်ရွက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ပါ၍ စက်မှုဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၂/၂၀၁၈ ကြိမ်မြောက်အစည်းအဝေး ဆုံးဖြတ်ချက်များဖြစ်သည့် ပြင်ဆင်စာချုပ်(မူကြမ်း)၊ စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် မြေဧရိယာ (၂၀၅၁.၉၇)ကေအတွက် မြေပိုင်ဆိုင်မှုအထောက်အထားတို့ကို ပူးတွဲပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

OF. 552

D:\2018\Sept-2018.docx76

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

## နှင့်

## လက်ဝါးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော

## စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

## တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၈ ခုနှစ် လ ရက်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန
## အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
## နှင့်
## လက်ဝါးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော
## စက္ကူစက်ရုံ(ရေနီ)အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်
## တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၈ ခုနှစ် လ( )ရက်နေ့တွင် နေပြည်တော်ရှိ ဦးသိန်းဟန်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (နောင်တွင် "အငှားချထားသူ" ဟုခေါ်ဆိုမည် ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ နှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်

နှင့်

ဒေါက်တာခင်မောင်အေး နိုင်ငံသားမှတ်ပုံတင်အမှတ်၊ ၁၂/အလန(နိုင်)၀၀၀၉၀၂ ကိုယ်စားပြုသော လက်ဝါးကုမ္ပဏီလီမိတက်၊ အမှတ်(၉၆)၊ နှင်းဆီကုန်းလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး(နောင်တွင်"အငှားချထားခြင်းခံရသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က အခြားတစ်ဖက်တို့သည် အောက်ပါသဘောတူညီချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူစာချုပ် ချုပ်ဆိုကြပါသည်-

(က) ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ်၊ ရေနီမြို့စက္ကူစက်ရုံ(ရေနီ)ကို "အငှားချထားခြင်းခံရသူ" မှငှားရမ်းပြီး လက်ရှိဘွိုင်လာများအား Gas Burner ပြောင်းလဲ၍ Internal Gas Line သွယ်တန်းခြင်း၊ 36MW ~ 45MW Power plant တည်ဆောက်ခြင်း၊ နိုင်ငံခြားသားပညာရှင်များခေါ်ယူ၍ စက္ကူနှင့်ပျော့ဖတ်စက်ရုံအားပြုပြင်မွမ်းမံမှုများ ဆောင်ရွက်ခြင်း၊ Replantation Plan စီမံဆောင်ရွက်ခြင်း၊ အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခြင်း လုပ်ငန်းများနှင့် စက္ကူနှင့်ပတ်သက်သော စက်မှုလုပ်ငန်းများအား အထည်အလိပ်နှင့်စက္ကူလုပ်ငန်း အထူးပြုသည့် စက်မှုနယ်မြေ (Industrial Complex) အဖြစ်ထူထောင်၍ ပြည်တွင်းပြည်ပ ရင်းနှီးမြှုပ်နှံသူများကို ဖိတ်ခေါ်ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၈.၁၁.၂၀၁၃)ရက်စွဲပါ ခွင့်ပြုချက်အမှတ်(၃၂/၂၀၁၃)အရ စက်ရုံငှားရမ်းသည့် သဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ် စက်တင်ဘာလ (၂၆)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် မူလစာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။) ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့ လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ "စက်ရုံရှိ စက်ရုံပြင်ပမြေဧရိယာတွင် အဆောက်အဦများ၊ စက်ရုံများဆောက်လုပ်၍ လုပ်ငန်းတိုးချဲ့ဆောင်ရွက်ပါက ထပ်မံဆောက်လုပ်အသုံးပြုသည့်မြေအား MIC မှ ခွင့်ပြုသည့်နှုန်းထားအတွင်း ထပ်မံဆောက်လုပ်မည့် လုပ်ငန်းအမျိုးအစားအလိုက် နှစ်ဖက်ညှိနှိုင်း၍ ငှားရမ်းခသတ်မှတ်ရမည် ဖြစ်ပါသည်။ သို့ရာတွင် မူလအစီအမံတွင် ပါဝင်သော Power Plant အတွက်မူ ထပ်မံပေးဆောင်ရန် မလိုအပ်ဟု မှတ်ယူရမည်" ဟု ထည့်သွင်းချုပ်ဆိုထားပါသည်။

(ဂ) စက်မှုဝန်ကြီးဌာန၏ ၂၆.၃.၂၀၁၅ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၁၃၄/၂၀၁၄-၂၀၁၅)အရ အထည်အလိပ်လုပ်ငန်းနှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း တို့ကိုပူးပေါင်း၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း အဖြစ်ပြင်ဆင်ဖွဲ့စည်းခဲ့ပါသည်။

(ဃ) ၎င်းမြေ၊ စက်ရုံပြင်ပမြေဧရိယာနေရာပေါ်တွင် လက်ဝါးကုမ္ပဏီလီမိတက်အနေဖြင့် စင်္ကာပူနိုင်ငံရှိ Hua Chou Investment Pte Ltd. နှင့် ဖက်စပ်ကုမ္ပဏီ(AGGD) Asia Golden Glory Development Co., Ltd. တည်ထောင်ပြီး အမေရိကန်ဒေါ်လာသန်း(၆၀) ရင်းနှီးမြှုပ်နှံ၍ စက်ရုံမြေ(၁၀၀)ဧကတွင် ပထမအဆင့်အနေဖြင့် အထည်ချုပ်စက်ရုံ တည်ဆောက်သွားမည်ဖြစ်ပြီး၊ ဒုတိယအဆင့်အနေဖြင့် ကျန်မြေဧက(၁၈၀၀)ခန့်တွင် အထည်လုပ်ငန်း၊ စက္ကူလုပ်ငန်းနှင့်စားသောက်ကုန်အပေါ်အခြေပြုသည့် စက်မှုလုပ်ငန်းများအပြင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်း လုပ်ငန်းများ ဆက်လက်လုပ်ကိုင်ဆောင်ရွက်လိုသည့်အတွက် ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို ၈.၁၂.၂၀၁၅ ရက်နေ့တွင် နှစ်ဦးနှစ်ဖက် ထပ်မံချုပ်ဆိုခဲ့ပါသည်။

(င) ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၁၀.၂၀၁၅ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် ၊ ၁၀၂၀/၂၀၁၅ နှင့် ၂၄.၁၁.၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၅-၂၀၁၆) တို့မှ ခွင့်ပြုခဲ့ပါသည်။

(စ) Lat War Co., Ltd. အနေဖြင့် (20%)၊ DKL Food Singapore Pte Ltd. မှ (80%)ဖြင့် အမေရိကန်ဒေါ်လာ(၁၄)သန်း ရင်းနှီးမြှုပ်နှံပြီး DKL Food Myanmar Co., Ltd. ကို ဖက်စပ်ကုမ္ပဏီတည်ထောင်ကာ နိုင်ငံတကာအဆင့်မီ နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်းများ ဆောင်ရွက်လိုခြင်းကြောင့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို (--.--.၂၀၁၈) ရက်နေ့တွင် စာချုပ်ဝင်များအကြား ချုပ်ဆိုခဲ့ပါသည်။

(ဆ) ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ နှမ်းရွေး/နှမ်းလှော်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (--.--.၂၀၁၈) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ --/၂၀၁၈ မှလည်းကောင်း၊ (--.--.၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (--/၂၀၁၈-၂၀၁၉) မှ လည်းကောင်း ခွင့်ပြုခဲ့ပါသည်။

**(ဒုတိယအကြိမ် ပြင်ဆင်စာချုပ် "မူကြမ်း"ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အရ ပြင်ဆင်ပြီး MIC သို့ တင်ပြထားပါသည်။)**

(ဇ) ယခုအခါ မူလစာချုပ်၏ ရည်ရွယ်ချက်ပါ စက္ကူနှင့်ပျော့ဖတ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် Lat War Co., Ltd. မှ (၂၀%)၊ Lee & Mann Paper Group ၏ Jolly Alliance International Limited မှ (၈၀%)ဖြင့် ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp & Paper Co., Ltd. ကို တည်ထောင်၍ စက္ကူစက်ရုံ (ရေနီ)ရှိ တန်(၈၀)စက်ရုံအား တန်(၁၀၀)စက်ရုံအဖြစ်လည်းကောင်း၊ တန်(၅၀) စက်ရုံအား တန်(၆၀)စက်ရုံအဖြစ်လည်းကောင်း စုစုပေါင်း တစ်နေ့လျှင် တန်(၁၆၀)ကို ထုတ်လုပ်သွားနိုင်ရန် ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ(၁၈.၀၇)သန်းဖြင့် အကြီးစားပြုပြင်မွမ်းမံသွားလိုခြင်း၊ Recycle Paper မှ တစ်နေ့လျှင် 50% Wet Paper Pulp တန်ချိန် (၂၄၀၀)ကျ စက်ရုံ(၁)ရုံကို စက်ပစ္စည်းတန်ဖိုး အမေရိကန် ဒေါ်လာ (၂၅.၄၆၀၄)သန်း ရင်းနှီးမြှုပ်နှံ၍ တည်ဆောက်သွားလိုခြင်းတို့ကြောင့် ဤ တတိယအကြိမ် ပြင်ဆင်စာချုပ်ကို ချုပ်ဆိုရခြင်း ဖြစ်ပါသည်။

(ဈ) ဤ တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ စက္ကူနှင့်ပျော့ဖတ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမှုကော်မရှင်၏ (--.--.၂၀၁၈) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ --/၂၀၁၈ မှ သဘောတူခွင့်ပြုပြီး ဖြစ်ပါသည်။

(ည) ဤ တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို (--.--.၂၀၁၈) ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး အမှတ်စဉ် (--/၂၀၁၈-၂၀၁၉)မှ သဘောတူပြီး ဖြစ်ပါသည်။

သို့ပါ၍ မူလစာချုပ်အပိုဒ်(၂၈)အရ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်ကို ပြင်ဆင်သည့် ဤတတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို အောက်ပါသဘောတူညီချက်များနှင့်အညီ ချုပ်ဆိုရခြင်းဖြစ်ပါသည် -

၁။ မူလစာချုပ်၏ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်း အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)ပါဝန်ထမ်းများမှာ အခြားဝန်ကြီးဌာနများသို့ ပြောင်းရွှေ့တာဝန်ထမ်းဆောင်သွားကြခြင်းနှင့် ပင်စင်ခံစားကြခြင်းတို့ကြောင့် ဝန်ထမ်းအင်အားလျော့နည်းသွားသဖြင့် ဝန်ထမ်းအင်အားနှင့် လစာနှုန်းထားတို့ကို ပယ်ဖျက်ပြီး အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည်-

| စဉ် | လစာနှုန်း | လူဦးရေ |
|---|---|---|
| (က) | ၃၇၄,၀၀၀/- ၄,၀၀၀/- ၃၉၄,၀၀၀/- | ၁ ဦး |
| (ခ) | ၃၀၈,၀၀၀/- ၄,၀၀၀/- ၃၂၈,၀၀၀/- | ၁၃ ဦး |
| (ဂ) | ၂၇၅,၀၀၀/- ၄,၀၀၀/- ၂၉၅,၀၀၀/- | ၃၁ ဦး |
| (ဃ) | ၂၃၄,၀၀၀/- ၂,၀၀၀/- ၂၄၄,၀၀၀/- | ၆၇ ဦး |
| (င) | ၂၁၆,၀၀၀/- ၂,၀၀၀/- ၂၂၆,၀၀၀/- | ၁၀၃ ဦး |
| (စ) | ၁၉၈,၀၀၀/- ၂,၀၀၀/- ၂၀၈,၀၀၀/- | ၁၇၁ ဦး |
| (ဆ) | ၁၈၀,၀၀၀/- ၂,၀၀၀/- ၁၉၀,၀၀၀/- | ၂၆၈ ဦး |
| (ဇ) | ၁၆၂,၀၀၀/- ၂,၀၀၀/- ၁၇၂,၀၀၀/- | ၁၅၇ ဦး |
| | စုစုပေါင်း | ၈၁၁ ဦး |

၂။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂)တွင် အပိုဒ်ခွဲ (င) အဖြစ် အောက်ပါစာပိုဒ်ကို ထပ်မံဖြည့်စွက်ရမည် -

၁၂(င) စက္ကူစက်ရုံ(ရေနီ)ရှိ တန်(၈၀)စက်ရုံအား တန်(၁၀၀)စက်ရုံအဖြစ် လည်းကောင်း၊ တန်(၅၀)စက်ရုံအား တန်(၆၀) စက်ရုံအဖြစ်လည်းကောင်း စုစုပေါင်း တစ်နေ့လျှင် တန်(၁၆၀) ထုတ်လုပ်သွားနိုင်ရေးအတွက် အကြီးစားပြုပြင်မွမ်းမံခြင်း၊ Recycle Paper မှ တစ်နေ့လျှင် ၅၀% Wet Paper Pulp တန်ချိန် (၂၄၀၀)ကျ စက်ရုံ(၁)ရုံကို တည်ဆောက်ခြင်းတို့အတွက် မူလငှားရမ်းခ ကျပ်(၉၅၀)သန်းအပြင် အကျိုးအမြတ်ခွဲဝေမှုအနေဖြင့် လုပ်ငန်းစတင်ပြီး ပထမ(၇)နှစ်ကို ဖက်စပ်ကုမ္ပဏီ၏ အမြတ်ငွေမှ နိုင်ငံတော်သို့အခွန် ပေးဆောင်ပြီး ကျန်ငွေအပေါ် Lat War Co., Ltd. အနေဖြင့် ရရှိမည့်အကျိုးအမြတ်၏ ၁၀% နှင့် နောက်ပိုင်းနှစ်များကို ၂၀% အချိုးဖြင့် စက်မှုဝန်ကြီးဌာနသို့ ခွဲဝေပေးရမည်။

၃။ မူလစာချုပ်၏ ငှားရမ်းခပေးချေခြင်း အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၃)တွင် အပိုဒ်ခွဲ(င) အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

၁၃(င) "အငှားချထားခြင်းခံရသူ"သည် စက်ရုံငှားရမ်းမြေပေါ်တွင် စက္ကူနှင့် ပျော့ဖတ်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် အဆောက်အဦများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုသည့် တည်ဆောက်ရေးကာလအတွင်း အပြီးတည်ဆောက်ရမည်။ တည်ဆောက်ရေးကာလ ပြည့်ပြီး၍ ယင်းအဆောက်အဦများကို စတင်အသုံးပြုချိန်တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စီးပွားဖြစ်စတင်ဆောင်ရွက်ရန် သတ်မှတ်သည့်နေ့မှစ၍ ပထမ(၇)နှစ်တွင် ခွဲဝေပေးရမည့် ဖက်စပ်ကုမ္ပဏီ၏ တစ်နှစ် အမြတ်ငွေမှ Lat War Co., Ltd. အနေဖြင့် ရရှိမည့်အကျိုးအမြတ်၏ (၁၀%) နှင့် နောက်ပိုင်းနှစ်များအတွက် (၂၀%)ကို ဖက်စပ်ကုမ္ပဏီ၏ နှစ်စဉ် Financial Report အား လုပ်ငန်း၏စီမံခန့်ခွဲရေးအဖွဲ့မှ စစ်ဆေး အတည်ပြုပြီးနောက် သတ်မှတ်ထားသည့် နှုန်းထားအတိုင်း (၂)လအတွင်း ပေးသွင်းရမည်။

၄။ မူလစာချုပ်၏ အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ အစုခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၅) တွင် အပိုဒ်ခွဲ(ရ)အား အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

၁၅(ရ) "အငှားချထားခြင်းခံရသူ"သည် ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp & Paper Co., Ltd. ၏ တစ်နှစ်ဝင်ငွေအား သိရှိနိုင်ရန် "အငှားချထားခြင်းခံရသူ"၏ စာရင်းစစ်အဖွဲ့မှ နှစ်စဉ်စစ်ဆေးသော Financial Report ကို နှစ်စဉ် "အငှားချထားသူ" ၏ လုပ်ငန်းစီမံခန့်ခွဲရေးအဖွဲ့မှ စစ်ဆေးအတည်ပြုနိုင်ရန် တင်ပြရမည်ဖြစ်ပြီး၊ လိုအပ်ပါက လုပ်ငန်း၏ စာရင်းစစ်အဖွဲ့သို့ စစ်ဆေးအတည်ပြုမှု ပြုလုပ်ရမည်။

၅။ ဤ တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်သည် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၆။ ဤ တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၇။ ဤ တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၈။ ဤ တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀၁၈ ခုနှစ်
လ ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်-

| | |
|---|---|
| **အငှားချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** |
| သိန်းဟန် | ဒေါက်တာခင်မောင်အေး |
| ဦးဆောင်ညွှန်ကြားရေးမှူး | ၁၂/အလန(နိုင်)၀၀၀၉၀၂ |
| အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | မန်နေဂျင်းဒါရိုက်တာ |
| | လက်ဝါးကုမ္ပဏီလီမိတက် |



D:\Repair Contracts\Yeni Best Eternity Contract Draft..doc

**ကန့်သတ်**

၇

**အသိသက်သေများ**

ဦးဝင်းအောင်
အထွေထွေမန်နေဂျာ
စီမံရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးသင်းမောင်အေး
၁၂/အလန(နိုင်)၀၀၀၉၀၄
အမှတ်(၉၆)၊ နှင်းဆီကုန်းလမ်း
အလုံမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ဦးတင်မောင်မြင့်
အထွေထွေမန်နေဂျာ
အရည်အသွေးထိန်းသိမ်းရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဒေါ်မေထက်သူ
၁၂/ပဘတ(နိုင်)၀၂၉၉၀၉
အမှတ်(၁၅၃)၊ ၃၁ လမ်း၊
ပန်းဘဲတန်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ဒေါ်ခင်ခင်ချို
အထွေထွေမန်နေဂျာ
ဘဏ္ဍာရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးကျော်ဟန်
အထွေထွေမန်နေဂျာ
ထုတ်လုပ်ရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

**ကန့်သတ်**

ဦးအောင်မျိုးမင်း
အထွေထွေမန်နေဂျာ
ရောင်းချဖြန့်ဖြူးရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးအောင်ကျော်မိုး
အထွေထွေမန်နေဂျာ
အုပ်ချုပ်ရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးမောင်မောင်သန့်
ဒုတိယအထွေထွေမန်နေဂျာ
နည်းပညာဖွံ့ဖြိုးရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၆၇ / နပတ ( ၉၃၃ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၁၇ ရက်

သို့

စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **တတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ကိစ္စ။**

ရည် ညွှန်း ချက် ။ (၁) စက်မှုဝန်ကြီးဌာန၏ ၃၀-၈-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ (၁၆၅၀)

(၂) စက်မှုဝန်ကြီးဌာန၏ ၂၅-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ (၈၇၁)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၆-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၂(၅) ၃ - ၆၇ / နပတ (၇၂၁)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း၊ စက္ကူစက်ရုံ(ရေနီ)တွင် စက္ကူနှင့် ပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်းနှင့် Lat War Co., Ltd တို့ ချုပ်ဆိုမည့် တတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ညှိနှိုင်းမေတ္တာရပ်ခံသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါစာ၌ -

(က) စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း၊ စက္ကူစက်ရုံ (ရေနီ)၏ မြေ (၂၀၄၇.၉၆၇) ဧကအား Lat War Co., Ltd သို့ ပြည်ထောင်စု

အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/ ၂၀၁၃)၏ ခွင့်ပြုချက်အရ တစ်နှစ်လျှင် ငှားရမ်းခငွေ ကျပ် (၉၅၀.၀၀၀) သန်းဖြင့်လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် (၁၀၂၀/ ၂၀၁၅) အရ မြေ(၁၀၀) ဧကပေါ်တွင် အထည်ချုပ်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် တစ်နှစ်လျှင် ငှားရမ်းခ (80937.00 USD) ဖြင့် (၃၀+၅+၅) နှစ်ဖြင့် လည်းကောင်း ငှားရမ်းဆောင်ရွက်လျက်ရှိကြောင်း၊

(ခ) Lat War Co., Ltd အနေဖြင့် (၂၀%)နှင့် Jolly Alliance International Ltd. မှ (၈၀%)တို့ဖြင့် Best Eternity Recycle Pulp and Paper Co., Ltd. (ဖက်စပ်ကုမ္ပဏီ)အား တည်ထောင်ကာ နည်းပညာနှင့် ငွေကြေးရင်းနှီးမြှုပ်နှံမှုများအားလုံးကို Jolly Alliance International Ltd. မှ စိုက်ထုတ်ပြီး၊ ဝန်ထမ်းစီမံခန့်ခွဲမှုကို Lat War Co., Ltd မှ တာဝန်ယူ၍ ပျော့ဖတ်နှင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) ဖက်စပ်ကုမ္ပဏီအနေဖြင့် စက္ကူစက်ရုံ(ရေနီ)ရှိ တန်(၅၀)နှင့် တန်(၈၀) စက်ရုံများကို အဆင့်မြှင့်တင်၍ အကြီးစားပြုပြင်မွမ်းမံပြီး စက္ကူနှင့် ပျော့ဖတ် တန်(၁၆၀)ထုတ်လုပ် ခြင်း၊ တစ်နေ့လျှင် တန်(၆၀၀)ကျ Recycle Paper Pulp စက်ရုံ(၄)ရုံနှင့် တန်(၃၀၀) ပျော့ဖတ်စက်ရုံ(၁)ရုံတို့ကို ထပ်မံတည်ဆောက်ခြင်းတို့အတွက် မူလငှားရမ်းခအပြင် လုပ်ငန်းစတင်ပြီး ပထမ (၇)နှစ်ကို ဖက်စပ်ကုမ္ပဏီ၏ဝင်ငွေမှ Lat War Co., Ltd အနေဖြင့် ရရှိမည့် အကျိုးအမြတ်၏ (၁၀%)နှင့် နောက်ပိုင်းနှစ်များကို (၂၀%)အချိုးဖြင့် စက်မှုဝန်ကြီးဌာနသို့ ခွဲဝေပေးခွင့်ကိစ္စနှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၁၇/ ၂၀၁၈) မှ သဘောတူ

ကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ဆုံးဖြတ်ခဲ့ကြောင်း၊

(ဃ) ဖက်စပ်ကုမ္ပဏီအနေဖြင့်ပျော့ဖတ်စက္ကူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ခဲ့မှုနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၂/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးမှ ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အတူ တင်ပြရန်ဆုံးဖြတ်ကြောင်း အကြောင်းကြားလာပါကြောင်း၊

(င) ဖက်စပ်ကုမ္ပဏီမှ စက်ရုံအား အဆင့်မြှင့်တင်၍ အကြီးစားပြုပြင် ပြင်ဆင်ခြင်းနှင့် စက်ရုံသစ်တည်ဆောက်ပြီး ပျော့ဖတ်နှင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုခြင်းနှင့် စပ်လျဉ်း၍ ပြင်ဆင်ချက်စာချုပ်(မူကြမ်း)အား နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြုစုခဲ့ကြောင်း စသည်ဖြင့် ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက္ကူစက်ရုံ(ရေနီ)တွင်နှမ်းရွေး၊ နှမ်းလှော်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် Lat War Co., Ltd နှင့် ချုပ်ဆိုမည့် ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် မေတ္တာရပ်ခံ၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးက ရည်ညွှန်းချက်(၃)ပါစာဖြင့် ပြန်ကြားခဲ့ပါသည်။ ယခု တစ်ဖန်တတိယအကြိမ်ပြင်ဆင်ချက်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် ညှိနှိုင်းလာပါသည်။ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားခဲ့သော်လည်း ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း)အား လက်မှတ်ရေးထိုးချုပ်ဆိုခြင်းရှိ မရှိ ရည်ညွှန်းချက်(၁)ပါစာ၌ တစ်စုံတစ်ရာဖော်ပြထားခြင်းမရှိသည့်အပြင် အဆိုပါ ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မိတ္တူ)အား ပူးတွဲပေးပို့လာခြင်းမရှိကြောင်း ဖော်ပြအပ်ပါသည်။

၄။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော တတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အား လေ့လာစိစစ်ရာ စာချုပ်(မူကြမ်း) အပိုဒ် (ဓ)၌ - ယခုအခါ မူလစာချုပ်၏ရည်ရွယ်ချက်ပါ စက္ကူနှင့် ပျော့ဖတ်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် Lat War Co.,Ltd မှ ၂၀%၊ Lee & Mann Paper Group ၏ Jolly Alliance International Limited မှ ၈၀% ဖြင့် ဖက်စပ်ကုမ္ပဏီ Best Eternity Recycle Pulp & Paper Co., Ltd ကို တည်ထောင်၍ ပထမအဆင့်အနေဖြင့် စက္ကူစက်ရုံ(ရေနီ)ရှိ တန် ၈၀ စက်ရုံအား တန်၁၀၀ စက်ရုံအဖြစ်လည်းကောင်း၊ တန် ၅၀ စက်ရုံအား တန် ၆၀ စက်ရုံအဖြစ်လည်းကောင်း စုစုပေါင်းတစ်နေ့လျှင်တန် ၁၆၀ ကို ထုတ်လုပ်သွားနိုင်ရန် ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၁၃ သန်းဖြင့် အကြီးစားပြုပြင်မွမ်းမံသွားလိုခြင်း၊ Recycle Paper မှ တစ်နေ့လျှင် 50% Wet Paper Pulp တန်ချိန် ၆၀၀ ကျ စက်ရုံ ၄ ရုံကို စက်ပစ္စည်း တန်ဖိုး အမေရိကန်ဒေါ်လာ ၂၅.၂ သန်း ရင်းနှီးမြှုပ်နှံ၍ တည်ဆောက်သွားလိုခြင်း၊ ဒုတိယအဆင့်အနေဖြင့် တစ်နေ့လျှင် တန် ၃၀၀ ကျ ဝါးပျော့ဖတ်စက်ရုံ အသစ်တစ်ရုံကို တည်ဆောက်သွားလိုခြင်း တို့ကြောင့် ဤ တတိယအကြိမ် ပြင်ဆင်ချက်စာချုပ်ကို ချုပ်ဆိုရခြင်း ဖြစ်ပါသည်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၅။ တတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် (ဓ)ပါ ဖော်ပြချက်အရ မူလ စာချုပ်၏ရည်ရွယ်ချက်ပါ စက္ကူနှင့် ပျော့ဖတ်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် Lat War Co.,Ltd သည် ပထမအဆင့်အနေဖြင့် ဖက်စပ်ကုမ္ပဏီထူထောင်၍ စက္ကူစက်ရုံ(ရေနီ)ရှိ စက်ရုံ ၂ရုံအား တန်ချိန်တိုးမြှင့် ထုတ်လုပ်နိုင်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၁၃ သန်းဖြင့် အကြီးစားပြုပြင်မွမ်းမံလိုခြင်း၊ Recycle Paper မှ တစ်နေ့လျှင် 50% Wet Paper Pulp တန်ချိန် ၆၀၀ ကျ စက်ရုံ ၄ ရုံကို စက်ပစ္စည်း တန်ဖိုး အမေရိကန်ဒေါ်လာ ၂၅.၂ သန်း ရင်းနှီးမြှုပ်နှံ၍ တည်ဆောက်လိုခြင်းနှင့် ဒုတိယအဆင့်အနေဖြင့် တစ်နေ့လျှင် တန် ၃၀၀ ကျ ဝါးပျော့ဖတ်စက်ရုံ အသစ်တစ်ရုံကို တည်ဆောက်လိုခြင်း စသည့်ကိစ္စရပ်များအတွက် မူလစာချုပ်ပါ စည်းကမ်းချက် များ၌ အဆိုပါကိစ္စရပ်များအတွက် ငှားရမ်းခများအား မည်သည့်အချိန်၌ မည်ကဲ့သို့ခွဲဝေမည် ဖြစ်ကြောင်း ဖြည့်စွက်ဖော်ပြရန်မသင့်သည့်ပြင် တိုးချဲ့လုပ်ကိုင်မည့် လုပ်ငန်းများမှာ များပြား

